# ပာဒီးစ်

## ကလေမာဟ်၊ မတ်စနူး (ရ်) ဒုိအာ

# သဂျ်ဝီးဒ်




မအူကုန်းမွတ်စလင်မ်များ သာရေးနာရေးအသင်း

အစ္စလာမ်ဘာသာရေး အာရ်ဗီစာသင်ကျောင်း

---

အမှတ် (၂/၄)၊ ၁၃၇ လမ်း၊ မအူကုန်းရပ်ကွက်၊
တာမွေမြို့နယ်၊ရန်ကုန်မြို့။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

# MMWA အသင်း၏ မိတ်ဆက်စကား

မိဘတို့၏အမွေအနှစ်သည် ကလေးများပင်ဖြစ်၏ ။ သို့ရှိရာ မိမိတို့အသိ၊ အတတ် ပညာနှင့် ဗဟုသုတများကို ရင်သွေးများအား အပ်နှံသွားရပေမည်။ ကလေးတို့အား ပညာရေး ပျိုးထောင်ရာတွင် မှန်ကန်သော သာသနာ့အတွေးအခေါ်များ၊ ရင့်ကျက်စေမည့်အစ္စလာမ့်အခြေခံများကို သင်ကြားရန်မှာ တာဝန်ကြီးတစ်ရပ်ဖြစ်ပေသည်။

အစ္စလာမ်သည် ကလေးများအား ပြုစုသည့် ကဏ္ဍကိုလည်း ချန်လှပ်ထားခြင်းမရှိ၊ မွေးရာမှ သေဆုံးသည့်တိုင် ကြုံရမည့် စခန်းမှန်သမျှတွင် လိုအပ်သော ဥပဒေ၊ စည်းကမ်းများ နှင့် ဆုံးမစကားများဖြင့် ထောက်ပြနေသည်။ အရွယ်ရောက်ချိန်တန် ထမ်းဆောင်ရမည့် ''ဖရပ်ဇ်''တာဝန်ချနည်းများကို ဖယောင်းပမာတူသော ကလေးများကို ငယ်ရွယ်စဉ်ကပင် သွန်သင်ထားရန် လိုအပ်သဖြင့် ''မအူကုန်းမွတ်စ်လင်မ်များအသင်း'' ပညာရေးဆပ်ကော်မတီ မှ ဤအစ္စလာမ့် အခြေခံအသိတရားများ သင်ရိုးညွှန်းတမ်းကို ပြုစုစေခဲ့၏။ သို့မှသာ နောင်ရေး ပူပင်ဆင်ခြင်မိကြသည့် အီမန်ရှင်လူကြီးမိဘတိုင်း စိတ်အေးကြရပေမည်။

မိဘများဖက်မှ သားသမီးများအဖို့ အကောင်းဆုံးလက်ဆောင်ချီးမြှင့်မှုသည် ယဉ်ကျေးမှုစည်းကမ်းနှင့် သာသနာပိုင်းဆိုင်ရာ ပညာရပ်များဖြစ်သည်ဟူသော ကုရ်အာန်၊ ဟဒီးစ်တော်၊ သအ်လီမွလ်အစ္စလာမ် (၄)တွဲ၊ အစ္စလာမ့်အခြေခံ ပရိယတ္တိ (၄)တွဲ နှင့် သောကြာတ်ခွန် စသည့် သိကောင်းစရာများ၊ စစ်မှန်သော ကျမ်းစာများကို ရွေးချယ်ကာ ''သဖ်ဟီမွလ် အစ္စလာမ်'' အမည်ဖြင့် ( ပထမ၊ ဒုတိယ၊ တတိယ၊ စတုတ္ထ ) အဆင့်လေးဆင့် ခွဲကာ ပြုစု ရေးသားစေခဲ့ပါသည်။ ထို့အပြင် ဟဒီးစ်တော် လေးဆယ်၊ နမားဇ်တွင် ဖတ်ရသော စာပိုဒ်များ၊ နိယာတ်များ၊ ကလေမာဟ် (၇)ပုဒ်၊ မတ်စ်နူးန်ဒိုအာများ၊ သင်္ချိုင်းဒ်နှင့် မာအ်စူမ် ကလေးများ ပါမကျန်စေရရန် သီးခြားစာအုပ်တစ်အုပ်စီ စုစုပေါင်း ( ၆ ) အုပ် ပြုစုထားစေပါသည်။

အစ္စလာမ်သာသနာ့ဝင်လူငယ်၊ လူရွယ်၊ လူလတ်တို့အတွက် စာတွေ့၊ လက်တွေ့၊ အလွယ်တကူ ကျက်မှတ်ကျင့်ကြံနိုင်ရန် ရည်ရွယ်ပါသည်။ အောက်ဖော်ပြပါ ဆရာများက ကောက်နုတ် စိစစ်ပါသည်။

၁။ အလ်ဟာဂျ်မောင်လာနာ ဟာဖိဇ်အဗ္ဗဒွလ်ကာဒိရ် (မာဟ်မူဒီ)
( ဟဒီးစ်အတန်းပြ-ဒါရွလ်အိုလူမ်၊ တာမွေ ၊ ရန်ကုန် )

၂။ မော်လဝီ စအီးဒ်အဟ်မဒ် (အဆ်အဒီ) ဘားအံမြို့ ။
(ယခင်ကျောင်းအုပ်ဆရာ၊ မအူကုန်း မွတ်စ်လင်မ်များအသင်း၊ အစ္စလာမ်ဘာသာရေးကျောင်း)

ဤ ''သဖ်ဟီမွလ်အစ္စလာမ်'' သည် အသင်းလက်အောက်ရှိ အစ္စလာမ်ဘာသာရေး အခြေခံ ကျောင်းတွင် ပညာဆည်းပူးသင်ယူနေကြသော ကျောင်းသား/ ကျောင်းသူများအတွက်သာ ဖြစ်သည်။

ပညာရေးအထောက်အကူပြုကော်မတီ
မအူကုန်းမွတ်စ်လင်မ်များအသင်း
အမှတ်-၁၉၄ ၊ စက်ရုံလမ်း ၊
ဘာမွေမြို့နယ် ၊ ရန်ကုန်မြို့။

ဟစ်ဂျရီသက္ကရာဇ် – ၁၄၀၅ ခုနှစ် ၊ ရှောင်ဝလ်လ (၆)ရက်
ခရာဇ်သက္ကရာဇ် – ၁၉၈၅ ခုနှစ် ၊ ဇွန်လ ( ၂၆ ) ရက်
မှတ်ချက် ။ ။ ပုံနှိပ်ရန်ရှိသဖြင့် သာသနာ့ပညာရှင်များ အထူးစိစစ်ပေးပါရန် ပန်ကြားအပ်ပါသည်။

## စာပြုသူ၏အမှာစကား

نَحْمَدُهُ وَنُصَلِّي عَلَى رَسُولِهِ الْكَرِيمِ

ကျွန်တော်သည် ၁၉၈၂ ခုနှစ်တွင် မအူကုန်း၊ မွတ်စ်လင်မ်များအသင်းအောက်ရှိ အမှတ် (၂/၄) ၁၃၇–လမ်း၊ အစ္စလာမ်ဘာသာရေးကျောင်းတွင် သာသနာ့ပညာရပ်များ ပို့ချရန် စတင်တာဝန်ထမ်း ဆောင်ခဲ့ပါသည်။ အစပထမတွင် လုပ်အားပေးအဆင့်မှစကာ ကျောင်းအုပ်ရာထူးထိ တိုးမြှင့်တာဝန်ပေးအပ် နှင်းခြင်း ရရှိခဲ့ပါသည်။

ဤသို့ဖြင့် သာသနာ့တာဝန်ထမ်းဆောင်စဉ် ကလေးများ သာသနာ့ ပညာမြှင့်တင်လာစေရန် လုပ်ဖော်ကိုင်ဖက်များဖြင့် ညှိနှိုင်းဆွေးနွေးမှုပြုပြီး သာသနာ့ပညာရေးစနစ်သစ် ဖန်တီးခြင်းဖြင့် (၁၉၈၄/ ၈၅) ခုနှစ်တွင် အောင်မြင်မှုများ ရရှိခဲ့ပါသည်။ ထို့ကြောင့် မအူကုန်း မွတ်စ်လင်မ်များအသင်း၊ ပညာရေး ဆပ်ကော်မတီမှ တာဝန်ရှိ ပုဂ္ဂိုလ်များက ၄င်းတို့၏ ကျောင်းပညာရေး သင်ရိုးညွှန်းတမ်းမူပိုင်ရှိစေလိုသော ဆန္ဒကြောင့် ကျွန်တော့်အား ရေးဆွဲပေးပါရန် တိုက်တွန်းတာဝန်ပေးအပ်ချက်အရ ဤ ''သဖ်ဟီမွလ်အစ္စလာမ်''မည်သော စာအုပ်ကို အလ္လာဟ်ရှင်မြတ်၏ ကူညီစောင်မမှုဖြင့် စစ်မှန်သော ကျမ်းငယ်များမှ ကောက်နုတ်၍ ပြုစုရေးသားလိုက်ပါသည်။

ဤစာအုပ်သည် အီမာန်ရှင်မိဘများ၏ ရင်သွေးငယ်များ သာသနာ့အသိစိတ်ဓါတ် ခိုင်မာ ရင့်သန်လာစေလိုသော ရည်ရွယ်ချက်ဖြင့် ကျောင်းသား၊ကျောင်းသူများနှင့်လျော်ညီအောင် (ပထမ၊ဒုတိယ၊ တတိယ၊စတုတ္ထ) အတွဲလိုက် ပြုစုပြဋ္ဌာန်းထားပါသည်။ အတွဲတိုင်း၌ အပိုင်း (၃)ပိုင်းခွဲကာ ( အီမာန်/ မတ်စ်အာလာ၊ အစ္စလာမီအာဒါးဗ်၊ အစ္စလာမ့်သမိုင်း) ဟူ၍ ကဏ္ဍအလိုက် သီးသန့်ပြုစုထားပါသည်။ ထို့အပြင် ဟဒီးစ် နမားဇ်နီယာတ်ပုံစံများ၊ နမားဇ်တွင် ရွတ်ဖတ်ရသော စာပိုဒ်များ၊ ကလေမာများ၊ မတ်စ်နူးန်ဒုအာများ၊ သဂ်ျဝီးဒ်နှင့် မအ်စူမ်ကလေးများပါ မကျန်စေရရန် အခြေခံအဆင့် (သရုပ်ဖော်ပုံပါ) သီးသန့်စာအုပ် တစ်အုပ် စီ ပြုစုရေးသားထားပါသည်။

ဤစာအုပ်သည် မိမိကိုယ်ကို အီမာန်ရှင် မွတ်စ်လင်မ်ဟု မှတ်ယူပါက အမှန်သိရမည်ဖြစ်သော ''ဖရပ်စ်'' တာဝန်ချနည်းများကို မိမိအပါအဝင်သားသမီးများကိုပါ လေ့လာဖတ်ရှုမှတ်သားသင်ပြ သင့်ပေသည်။ မိမိရင်သွေးငယ်များ၊ သာသနာ့အသိပညာတိုးပွါးလာစေရန် မိဘများအနေဖြင့် အစ္စလာမ် ဘာသာရေးကျောင်းသို့ နေ့စဉ်မှန်မှန် စေလွှတ်ပေးကြပါရန် ကျွန်တော်မှ လှိုက်လှိုက်လှဲလှဲ တိုက်တွန်း နှိုးဆော်အပ်ပါသည်။

ကျွန်တော်သည် လူထဲက လူတစ်ဦးဖြစ်၍ အမှားနှင့် မကင်းနိုင်သည်ကို အပြစ်မမြင်ဘဲ အပြုသဘောဖြင့် တွေ့ရှိရသော အမှားတို့ကိုသော်လည်းကောင်း၊ ဖြည့်စွက်သင့်သည်တို့ကိုသော်လည်းကောင်း လူကိုယ်တိုင် သို့မဟုတ် စာဖြင့် မအူကုန်းမွတ်စ်လင်မ်များအသင်း၊ ပညာရေးဆပ်ကော်မတီ ၊ အမှတ်–၁၉၄၊စက်ရုံလမ်း၊ တာမွေမြို့နယ် ၊ရန်ကုန်မြို့သို့ ပြင်ဆင်တိုးမြှင့်ပေးခွင့်ရှိပါကြောင်း အထူးပန်ကြားအပ်ပါ သည် ။

ဤစာအုပ်တွဲ ဖြစ်မြောက်စေရန် စာအုပ်စာတမ်းအကူအညီနှင့် အကြံဉာဏ်ကောင်းပေးကြ သော ''မော်လဝီအပ္ဗဒွလ်ကရင်မ် (အဆ်အဒီ) မှော်ဘီ၊ ရန်ကုန်တိုင်း၊ မော်လဝီနူရ်ဟူစိန် (အဆ်အဒီ) မော်လမြိုင်မြို့၊ မော်လဝီတွာဟိရ် (မဟ်မူဒီ) တာမွေ၊ ရန်ကုန်၊ မော်လဝီဦးချစ်ဦး (ဘားအံ)၊ မော်လဝီယူစွဖ် (အဆ်အဒီ) ရွှေဂွန်း၊ ကရင်ပြည်နယ်။ မော်လဝီဟနစ်ဖ် (အဆ်အဒီ) ဆင်ဖြူကျွန်း၊ မကွေးတိုင်း'' တို့အား ဤစာအုပ်ဖြင့် မှတ်တမ်းတင်ဂုဏ်ပြုပါသည်။

မိဘ ၊ ဆရာ၊ ကျောင်းသား၊ ကျောင်းသူများနှင့် အီမာန်ရှင်များ၊ ကူညီသူများ၊ အသင်းဝင်များကို မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်က ဤ ''သဖ်ဟီမွလ်အစ္စလာမ်'' မည်သောစာအုပ်ဖြင့် ''စွာဒကာအေဂျာရီယာ'' အဖြစ် လက်ခံတော်မူပါစေသတည်း။ (အားမီးန်)

မော်လဝီစအီးဒ်အဟ်မဒ် (အဆ်အဒီ) (ဘားအံမြို့)
ယခင်ကျောင်းအုပ်ဆရာ

ဟစ်ဂျ်ရီသက္ကရာဇ် – ၁၄၀၅ ခုနှစ် ၊ ရမ်ဇန်လ (၂၈)ရက်
ခရာဇ်သက္ကရာဇ် – ၁၉၈၅ ခုနှစ် ၊ ဇွန်လ ( ၁၈ ) ရက်

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

# ဟာဒီးစ်တော် (၄၀)

إِنَّمَا الْاَعْمَالُ بِالنِّيَّاتِ

၁။

အဓိပ္ပာယ် ။ ။ အလုပ်ဟူသမျှတို့သည် ရည်စူးချက်အပေါ် မူတည်၏။

အလိုသဘော ။ ။ ရည်စူးချက် မမှန်က လိုအင်ဆန္ဒ မပြည့်ဝ၊ ဦးတည်ချက်မရှိကပန်းတိုင် မရောက်။ အလုပ်မှန်က ပန်းတိုင်ရှိရမည်။

اَلدِّيْنُ نَصِيْحَةٌ

၂။

အဓိပ္ပာယ် ။ ။ သာသနာဟူသည်ဆုံးမစကားပင်ဖြစ်၏။

အလိုသဘော ။ ။ လူ့ဘဝ၊ လူ့စည်းကမ်း သိတတ်နားလည်ဖို့လို၏ နေရေး၊ ထိုင်ရေး၊ သွားရေး၊ လာရေးစသည့် ကျင့်ဝတ်အဖြာဖြာတို့သည် သာသနာ ရှိမှသာလျှင် တတ်သိနားလည်မည်ဖြစ်၏။ လူတို့၏စည်းစနစ် ကျမှုတို့ကို ဘောင်အဖြစ်ခတ်ထား သည့်အရာမှာ သာသနာသာပင် ဖြစ်၏။

طَلَبُ الْعِلْمِ فَرِيْضَةٌ عَلٰى كُلِّ مُسْلِمٍ

၃။

အဓိပ္ပာယ် ။ ။ ဘာသာရေးပညာရှာဖွေခြင်းသည် မွတ်စလင်မ်အမျိုးသား၊ အမျိုးသမီး တိုင်းအပေါ် ဖရပ်စ် မပြုမနေရ တာဝန်တစ်ရပ်ဖြစ်၏။

အလိုသဘော ။ ။ ပညာရှာဖွေခြင်းသည် သာသနာ့ပညာကို ဆိုလိုသည်။ ဆင်းရဲ၊ သူဌေး၊ လူဖြူ၊ လူမဲ မရွေး အားလုံးသော မွတ်စလင်မ်များ အပေါ်သို့ အမိန့်ပညတ်ချက် ပြုထားခြင်းဖြစ်သည်။

اُطْلُبُوا الْعِلْمَ مِنَ الْمَهْدِ اِلَى اللَّحْدِ

၄။

အဓိပ္ပာယ် ။ ။ ပုခက်အတွင်းမှ သင်္ချိုင်း ရောက်သည်အထိ ပညာရှာဖွေကြလေကုန်။

အလိုသဘော ။ ။ ပညာသည် ပိုသည်မရှိ။ ပညာသည် လူ၏တန်ဘိုး၊ ဥစ္စာကြွယ်ဝ

ချမ်းသာလင့် ကစား ပညာမရှိပါက ထိုပစ္စည်း ဥစ္စာ အသုံးမကျ၊ အသုံး မမှန်ဖြစ်ပေမည်။ ပညာရှာမှီးရာတွင် အချိန်အရွယ် အသက်အကန့် အသတ်မရှိပေ။

تَعَلَّمُوا الْقُرْاٰنَ وَعَلِّمُوا النَّاسَ

၅။

အဓိပ္ပာယ် ။ ။ ကျမ်းမြတ်ကုရ်အာန်ကို သင်ယူပြီး အခြားသူများကို သင်ပေးကြပါ။

အလိုသဘော ။ ။ အတတ်ပညာတိုင်းကို မဆိုလိုပါ။ ကုရ်အာန်နှင့် ပတ်သက်သော ပညာရပ်ကိုသာ ဆိုပေသည်။ ကုရ်အာန်သင်ပေး သင်ယူခြင်းသည် အဆုံး မရှိ အကျိုးရှိ၏။

لَا تَقَاطَعُوْا

၆။

အဓိပ္ပာယ် ။ ။ အချင်းချင်း အဆက်အသွယ် မဖြတ်ကြလေနှင့်။

အလိုသဘော ။ ။ အဆက်အသွယ် ဖြတ်ခြင်းဖြင့် သာသနာရေး၊ လူမှုရေး၊ သာရေး၊ နာရေး၊ ချစ်ခင်ကြည်ဖြူမှု၊ ကြည်ညိုလေးစားမှု အစရှိသော အရာ အားလုံးတို့၌ ဆုံးရှုံးတတ်၏။ အလ္လာဟ်အရှင်မြတ်၏ အမိန့်နှင့် ကိုယ်တော်မြတ်၏ အမိန့်ကို ဆန့်ကျင်ရာလည်း ရောက်၏။

لَا تَدَابَرُوْا

၇။

အဓိပ္ပာယ် ။ ။ တစ်ဦး အပြစ် တစ်ဦး မရှာကြလေနှင့်။

အလိုသဘော ။ ။ ခိုက်ရန် ဒေါသဖြစ်တတ်၏။ ကြည်ညိုလေးစားမှုပျက်မည်ကို စိုးရိမ်ရသည်။ အများသူငါရှေ့တွင် သိက္ခာကျမည်ကို စိုးရိမ်ရသည်။ မိမိကိုယ်ကို အထင်ကြီးရာ ရောက်သည်။

لَا تَحَاسَدُوْا

၈။

အဓိပ္ပာယ် ။ ။ တစ်ဦးကို တစ်ဦး မနာလိုဝန်တိုစိတ် မထားကြလေနှင့်။

အလိုသဘော ။ ။ မိမိ၏ စိတ်နှလုံး သန့်ရှင်းမှု မရှိသည်ကို ပေါ်လွင်စေသည်၊ အခြားသော

သူများက မိမိထက် အဆင့်အတန်းနိမ့်သည်ဟူသော အတွေးသည် နှလုံးသား၌ ကိန်းဝပ်နေမည်ကို စိုးရိမ်ရသည်။

مَنْ غَشَّ فَلَيْسَ مِنَّا

၉။

အဓိပ္ပာယ် ။ ။ မမှန်သော နည်းလမ်းဖြင့် ရောင်းဝယ်သူသည် ငါ၏တမန်တော်၏ အသင်းထဲမှ မဟုတ်ပေ။

အလိုသဘော ။ ။ အေဘာဒသ်ခဝတ်ဆည်းကပ်မှုသည် ခန္ဓာကိုယ်နှင့် သွေးသားမသန့်က အရာထင်မည်မဟုတ်။ ခန္ဓာကိုယ်နှင့်သွေးသားသည် အစားအသောက်မမှန်က သန့်ပြန့်မည်မဟုတ်။ အစားအသောက်သည် ရောင်းဝယ် ဖောက် ကားမှု မမှန်က (ဟရာမ်) စားသောက် မပိုင်ပါ။ ထို့ကြောင့် ခဝတ်မှုမှန်ကန်စေရန် ခန္ဓာကိုယ်နှင့် သွေးသားသန့်ရန် အရေးကြီးသည်။ သွေးသားနှင့် ခန္ဓာကိုယ်သန့်စေရန် အစားအသောက်မှန်ရမည်။ အစားအသောက် မှန်စေရန်မှာ ရောင်းဝယ်မှု မှန်ရမည်။ အပေးအယူ မှန်ရမည်ဖြစ်သည်။

لَا تَغْضَبْ

၁၀။

အဓိပ္ပာယ် ။ ။ ဒေါသ ရှေ့မထားလေနှင့်။

အလိုသဘော ။ ။ ဒေါသသည် အမှောင်ဖြစ်၏။ ဒေါသသည် အရှက်တရား ကင်းမဲ့စေသည်။ ဒေါသသည် ဆင်ခြင်တရား ကင်းမဲ့သည်။ ဒေါသ၏ အစ သူရူးဖြစ်စေ သည်။ ဒေါသ အဆုံးသည် အရှက်တကွဲ အကျိုးနည်းဖြစ်စေသည်။

اَلسَّلَامُ قَبْلَ الْكَلَامِ

၁၁။

အဓိပ္ပာယ် ။ ။ စကားမပြောမီ စလာမ်အရင်ပေးပါ။

အလိုသဘော ။ ။ စကားအမှားပါတတ်၏။ မေတ္တာပို့ရာ၌အမှားမပါရှိနိုင်။ စကား

ထဲ၌ပင်မိမိ ဒုက္ခရောက်နိုင်၏။ မေတ္တာပို့ခြင်းသည် ဒုက္ခရောက်ရာ
တို့မှ ကင်းဝေးစေ၏။

اَلنَّدَمُ تَوْبَةٌ

၁၂။

အဓိပ္ပာယ် ။ ။ နောင်တရခြင်းသည် တောင်ဗပါပ်အမှား ဝန်ခံခြင်းပင်ဖြစ်၏။

အလိုသဘော ။ ။ ဆိုးသွမ်းမှု၊ ရက်စက်မှုတို့၏ နောက်ဆုံး၌ ကောင်းမှု၊ သနား ကြင်နာမှုတို့ ဖြင့် အဆုံးသတ်မှသာလျှင် လူကောင်း လူတော်ဖြစ်သည်။ မိမိအမှားကို ဝန်ချသောသူသည်သာ လျှင် သူရသတ္တိနှင့် ပြည့်စုံသူဖြစ်၏။ မကောင်းမှု၏အထွဋ်အထိပ် ရောက်နေလင့်ကစား ကောင်းမှု ဖက်ပြန်လာရန် သင့်ပေသည်။

اَلْكَلِمَةُ الطَّيِّبَةُ صَدَقَةٌ

၁၃။

အဓိပ္ပာယ် ။ ။ ကောင်းသောစကားပြောခြင်းသည် အလှူဒါနတစ်မျိုးဖြစ်၏။

အလိုသဘော ။ ။ မိမိ၏မဆင်မချင်အပြောအဆိုကြောင့် တစ်ဖက်သောသူ စိတ်တတ်ထိခိုက်တတ်၏။ မကောင်းမှုဘက်သို့ ယိမ်းယိုင်နိုင်၏။ ကောင်းသော စကားပြောခြင်းဖြင့် ကောင်းသောလမ်းစဉ်လိုက်နိုင်၏။ အလှူအတန်း ရက်ရောနိုင်သည်။

اَكْرَمُ النَّاسِ مَنْ اَتْقَاهُمْ

၁၄။

အဓိပ္ပာယ် ။ ။ အမွန်မြတ်ဆုံးသော သူသည် မကောင်းမှုဒုစရိုက်များကို ရှောင်ကျဉ်သော သူသာလျှင်ဖြစ်၏။

အလိုသဘော ။ ။ သေးငယ်သော အပြစ်ဒုစရိုက်သည် ကြီးမားသော ဒုစရိုက်တို့၏ အရင်းခံ ဖြစ်သည်။ ဒုစရိုက်များကို သေးသည်ဟူ၍ အထင်မသေးလေနှင့်၊ ခန္ဓာ ကိုယ် အစိတ်အပိုင်းနှင့် ဖြစ်စေ၊ နှလုံးသားနှင့်ဖြစ်စေ၊ အစစအရာရာ၌ ရှောင်ကျဉ်ရန်ဖြစ်သည်။

لَا تَتَّخِذُوا الْقُبُوْرَ مَسَاجِدَ

၁၅။

အဓိပ္ပာယ် ။ ။ သင်္ချိုင်းများကို စဂျ်ဒါဦးချသော နေရာ မပြုလုပ်ကြလေနှင့်။

အလိုသဘော ။ ။ ကြီးလေးသော အပြစ်ရှိပြီး ကိုယ်ကျင့်တရားနှင့် ဖွဲ့ လုံ့လတို့ ပျက်စီးမည်ကို စိုးရိမ်ရသည်။ လူတစ်ကိုယ်လုံး၌ အမွန်မြတ်ဆုံးသော နေရာများ၌ ဦးခေါင်းလည်းပါဝင်ပေသည်။ ထိုသို့မြတ်သောဦးခေါင်းအား တစ်ပါးတည်း အရှင်နှင့် မိမိကိုမွေးမြူ ဖန်ဆင်းတော်မူသောအရှင့် ရှေ့၌သာ ဦးညွတ်သင့်၏။

اَلْخَلْقُ عَيَالُ اللّٰهِ

၁၆။

အဓိပ္ပာယ် ။ ။ ဝေနေယျ အပေါင်းတို့သည် အလ္လာဟ်အရှင်မြတ်၏ အိမ်ထောင်စုသား များဖြစ်ကြသည်။

အလိုသဘော ။ ။ ညီညီညွတ်ညွတ်နေရန်၊ စည်းစည်းလုံးလုံးရှိရန် အရေးကြီးသည်။ တစ်ဦးကိုတစ်ဦး ကောင်းရာညွှန်၍ မကောင်းရာမှ တားမြစ်သင့်ပေသည်။ လူမျိုးမရွေး ဘာသာမရွေး ဥမကွဲသိုက်မပျက်နေထိုင်ရန် အရေးကြီးပေသည်။

اَفْشُوا السَّلَامَ

၁၇။

အဓိပ္ပာယ် ။ ။ စလာမ်များများပေးကြပါ။

အလိုသဘော ။ ။ ချစ်ခင်မှုတိုးပွားမည်။ ပျော်ရွှင်မှုရရှိမည်။ မိုအ်မင်န်တစ်ဦးနှင့် တစ်ဦး မေတ္တာ ပို့ရသော (ဆုတောင်းရသော) တာဝန်ကျေမည်။ ပျော်ရွှင်မှုရရှိခြင်းဖြင့် တစ်ဦးအပြစ် တစ်ဦး မမြင်၊ မတွေ့နိုင်ကြတော့ပေ။

خَيْرُ النَّاسِ مَنْ يَّنْفَعُ النَّاسَ

၁၈။

အဓိပ္ပာယ် ။ ။ လူအများ၏အကျိုးဆောင်သူသည်အကောင်းဆုံးသောသူဖြစ်၏။

အလိုသဘော ။ ။ မိုအ်မင်န်ညီနောင်အချင်းချင်း ယိုင်းပင်းကူညီခြင်းဖြင့် မိမိအကျိုး မယုတ် နိုင်ပါ။ အများအကျိုးဆောင်သောသူသည် မိမိအကျိုးလည်း အောင်မြင်မည်သာဖြစ်မည်။

يَدُ اللّٰهِ فَوْقَ الْجَمَاعَةِ

၁၉။

အဓိပ္ပာယ် ။ ။ အစည်းအရုံးပေါ်တွင် အလ္လာဟ်အရှင်မြတ်၏ ကူညီစောင်မမှုရှိ၏။

အလိုသဘော ။ ။ စုစည်းမှု၏ အသိုင်းအဝိုင်း၌သာ ပျော်မွေ့သင့်၏။ အုပ်စုကွဲက ကျားဆွဲ၏။ အုပ်စုထဲမှ ခွဲထွက်သော ရှိုင်တွာန်သည် အလ္လာဟ်၏ ငြိုငြင်မှု ရရှိခဲ့သည်။

سَيِّدُ الْقَوْمِ خَادِمُهُمْ

၂၀။

အဓိပ္ပာယ် ။ ။ အုပ်စု၏ ခေါင်းဆောင်ဟူသည် အုပ်စုဝင်များ၏ အကျိုးသယ်ပိုး ဆောင်ရွက်သူသာလျှင် ဖြစ်၏။

အလိုသဘော ။ ။ အနစ်နာခံခြင်း၊ ကိုယ်ကျိုးစွန့်ခြင်း၊ ငယ်သူကို သနားခြင်း၊ စာနာထောက် ထားခြင်း၊ စေ့စေ့ငှငှ ကြည့်ရှုခြင်း၊ ဂဃနဏ လေ့လာခြင်း၊ မှန်မှန်ကန်ကန် ဆုံးဖြတ်ခြင်းသည် ခေါင်းဆောင်အပေါ်မူတည်၏။

اَصْدَقُ الْحَدِيْثِ كِتَابُ اللّٰهِ

၂၁။

အဓိပ္ပာယ် ။ ။ အလ္လာဟ် အရှင်မြတ်၏ " ကလာမ် " ဗျာဒိတ်တော်သည် အမှန်ကန်ဆုံး စကားဖြစ်သည်။

အလိုသဘော ။ ။ ကျမ်းပေါင်းစုံ၌ ချွတ်ယွင်းချက်ရှိသည်။ အပို/အလို အပြောင်းအလဲရှိသည်။ နှစ်ကာလ ရှည်လျားလာသည်နှင့်အမျှ ပြောင်းလဲတတ်၏။ ရေးသူ ဖက်မှ ဖြည့်စွက်ခြင်း၊ လျှော့ထားခြင်းဖြစ်တတ်၏။ သို့သော် ကုရ်အာန်၌ ထိုသို့သော အရာ များမှ ကင်း၏။ မည်သို့သော သူမှ ကမ္ဘာပျက်မည့် နေ့အထိပြုပြင် ပြောင်းလဲရန် တတ်စွမ်းနိုင်မည် မဟုတ်။ အရှင်မြတ်ကိုယ်တော် တိုင် စောင့်ရှောက် ထိန်းသိမ်းရန် တာဝန်ယူထားသောကြောင့်ဖြစ်သည်။

اَلْغِنٰى غِنَى النَّفْسِ

၂၂။

အဓိပ္ပာယ် ။ ။ စိတ်၏ ချမ်းသာမှုသာလျှင် ချမ်းသာမှုအစစ်အမှန်ဖြစ်သည်။

အလိုသဘော ။ ။ လောဘ၊ ဒေါသ၊ မောဟ၊ ဆန္ဒ၊ ရမက်၊ ပစ္စည်းဥစ္စာတို့သည် လူသားအား ပျော်ရွှင်ချမ်းမြေ့ခြင်းမှ ကင်းဝေးစေသည်။ ထိုအရာများကို နှလုံး

သားက အမြဲတောင့်တသည်။ ၄င်းအရာအားလုံးမှ မက်ကင်းလျှင် စိတ်ချမ်းသာပေမည်။

لَا يَدْخُلُ الْجَنَّةَ قَاطِعٌ

၂၃။

<u>အဓိပ္ပာယ်</u> ။ ။ သေခန်းဖြတ်သူသည် ဂျန္နသ် သုခဘုံသို့ ဝင်ရမည် မဟုတ်ပေ။

<u>အလိုသဘော</u>။ ။ အီမာန်ရှင်ဆွေမျိုးမိတ်သင်္ဂဟအားလုံးတို့သည် ညီရင်းမောင်နှမ ဖြစ်၏။ ထိုသူတို့ကို သေခန်းဖြတ်ခြင်းဖြင့် မိမိကိုယ်ကို အထင်ကြီးရာ ရောက်သည်။ မိမိကိုယ်ကို အထင်ကြီးသော သူသည် အပွါယ်ငရဲသို့ လားရမည်ဖြစ်သည်။ သေခန်းဖြတ်ခြင်းဖြင့် တစ်ပါးသူ စိတ်ဒုက္ခ ရောက်စေသည်။ တစ်ပါးသူ စိတ် ဒုက္ခရောက်ခြင်းကို အရှင်မြတ် မလိုလားပေ။ အရှင်မြတ် မလိုလားသော သူသည် ငရဲလားရန်သာ ရှိသည်။

لَا يَدْخُلُ الْجَنَّةَ قَتَّاتٌ

၂၄။

<u>အဓိပ္ပာယ်</u> ။ ။ ဂုံးချောသူသည် ဂျန္နတ်သုခဘုံသို့ ဝင်ရမည့်မဟုတ်ပေ။

<u>အလိုသဘော</u>။ ။ ဂုံးချောခြင်းဖြင့် ခိုက်ရန် ဖြစ်တတ်သည်။ သွေးကွဲတတ်သည်။ ခိုက်ရန်ဖြစ်ခြင်း၊ သွေးကွဲခြင်းကို အရှင်မြတ် မလိုလား၊ ဂုံးချောသူ သည် ကျိုးနှင့်တူ ၏။ ကျိုးသည် အပုပ်သာစား၏။ ကျိုးသည် အများ သူငါကို အမြဲကြောက်ရသည်။

كُلُّ مَعْرُوفٍ صَدَقَةٌ

၂၅။

<u>အဓိပ္ပာယ်</u> ။ ။ ကောင်းမွန်သော အလုပ်တိုင်းသည် အလှူဒါနဖြစ်သည်။

<u>အလိုသဘော</u>။ ။ အလှူဒါနလုပ်ခြင်းသည် မိမိအတွက် အကျိုးရှိ၏။ မွန်မြတ်သော အလုပ်၊ အပြုအမူပြုလုပ်ခြင်းဖြင့် အများအတွက် အကျိုးရှိသည်။ မိမိ အတွက် တစ်ပါး သူ မနစ်နာစေရ။ မိမိလုပ်ရပ် အတွက် အများသူငါ ပျော်ရွှင်ကြည်နူးပါက အသင့်အား မေတ္တာပို့မည်ဖြစ်သည်။ ဦးရေ သတ်မှတ်မှုမရှိ၊ သို့သော် ကျွေးမွေးပေးလှူက မေတ္တာပို့သောသူ ဦးရေ သတ်မှတ်မှုရှိသည်။

F-4-A

كُلُّ بِدْعَةٍ ضَلَالَةٌ

၂၆။

အဓိပ္ပာယ် ။ ။ တရားသစ် (ဗစ်ဒအတ်သ်) တိုင်းသည် လမ်းမှားချည်းသာ ဖြစ်၏။

အလိုသဘော ။ ။ တရားတော်သည် အလ္လာဟ်အရှင်ဖက်မှ ထုတ်ပြန်ခြင်းဖြစ်သည်။ အရှင်ဖက်မှလာသော ပညာတ်ချက်သည် အမှားအယွင်းကင်း၏။ ထို့အတူ တမန်တော်မြတ်(စွ)၏ ညွှန်ကြားပြသမှုသည်လည်း အရှင့်အလိုတော်အတိုင်းဖြစ်၍ အမှားမပါနိုင်ပေ။ မိမိတို့ဖာသာမိမိတို့ တရားတော်ကို လိုသလို ပညာတ်ချက်များ ထည့်သွင်း ပြုကျင့်ခြင်းသည်သာ အမှားဖြစ်တတ်၏ ထို့ကြောင့် သာသနာ့ ပညာတ်ချက်များကို လိုတိုး၊ ပိုလျော့ပြုလုပ်သောသူသာ အပွါယ်ငဲ့ရဲလားသူသာ ဖြစ်မည်။

اَلْحَيَاءُ شُعْبَةٌ مِنَ الْاِيْمَانِ

၂၇။

အဓိပ္ပာယ် ။ ။ အရှက်တရားသည် အီမာန် ယုံကြည်ချက်၏ အကိုင်းအခက်ဖြစ်သည်။

အလိုသဘော ။ ။ အရှက်တရားကင်းမဲ့ခြင်းဖြင့် ထင်ရာစိုင်းနိုင်သည်။ ထင်ရာစိုင်းခြင်းကို တရားတော်က ခွင့်မပြု။ အရှက်တရား ကင်းမဲ့ခြင်းသည် ယုံကြည်ချက်၊ ရည်ရွယ်ချက် ပန်းတိုင်သို့ မလှမ်းနိုင်။

မှတ်ချက် ။ ။ စီးပွားရေး၊လူမှုရေး၊ တိုင်းရေးပြည်ရေးကို မဆိုလို၊ ကျင့်ဝတ်နှင့် နေထိုင် သွားလာ ပေါင်းသင်းဆက်ဆံရေးကိုဆိုလိုသည်။

اِشْفَعُوْا تُؤْجَرُوْا

၂၈။

အဓိပ္ပာယ် ။ ။ ဖြန်ဖြေကြ၊ ကုသိုလ်ရကြသည်။

အလိုသဘော ။ ။ မကောင်းမြစ်တား၊ ကောင်းရာညွှန်လတ်ကိုဆိုလိုသည်။ စိတ်ဝမ်းကွဲမှုမပြုကြလေနှင့်။ တစ်ပါးသူစိတ်ဝမ်းကွဲမည်ကိုလည်း မနှစ်မြို့လေနှင့်။

# اَلْجَنَّةُ تَحْتَ قَدَمِ وَالِدَيْكَ

၂၉။

အဓိပ္ပာယ် ။ ။ ဂျန္နသ်သုခဘုံသည် သင့်မိဘနှစ်ပါးတို့၏ ခြေဖဝါး အောက်၌ ရှိသည်။

အလိုသဘော ။ ။ မိဘနှစ်ပါး၏ စကားနာခံခြင်းကိုဆိုလိုပါသည်။ အသင်သည် မိဘနှစ်ပါးကြောင့် လူ့လောကသို့ရောက်ရခြင်းသည် ထိုမိဘ နှစ်ပါး၏ ကျေးဇူးကြီးမားလှ၏။ လာခြင်းရှိသလို သွားခြင်းလည်းရှိ၏။ တမလွန်သည် သုခဘုံနှင့် ငရဲဘုံဟူသော လမ်းနှစ်သွယ်ရှိ၏။ သုခဘုံသို့သွားလိုလျှင် မိဘနှစ်ပါးနှင့် ပြေပြစ်စွာ ဆက်ဆံရပေမည်။ မိဘနှစ်ပါး၏ ကျေနပ်မှုကို ရယူရပေမည်။ မိဘ၏ ကျေနပ်မှုသည် အရှင်၏ ကျေနပ်မှုပင်ဖြစ်၏။ မိဘ၏ အမိန့်နာခံမှုသည် အရှင့်အမိန့် နာခံမှုပင်ဖြစ်ပေသည်။

# اَلْخَمْرُ جُمَّاعُ الْإِثْمِ

၃၀။

အဓိပ္ပာယ် ။ ။ သေရည်သေရက်သည် ပြစ်မှုဒုစရိုက်များကို ပွားများစေသော အရာဖြစ်သည်။

အလိုသဘော ။ ။ သေရည်သောက်ခြင်းဖြင့် သတိလက်လွတ် ဖြစ်တတ်သည်။ သတိလက်လွတ် ဖြစ်နေသောသူသည် ဖြစ်ပေါ်လာမည့် ဘေးကို မတွေး တောနိုင်၊ လာမည့်ဘေးမတွေးနိုင်လျှင် ဖြစ်တတ်ရာရာ၊ ရောက်တတ်ရာရာ အဖြစ်သို့ရောက်၏။

# مَنْ شَذَّ شُذَّ فِي النَّارِ

၃၁။

အဓိပ္ပာယ် ။ ။ သွေးခွဲလျှင် ငရဲလားမည်။

အလိုသဘော ။ ။ ညီရင်းမောင်နှမဖြစ်စေ၊ ဆွေမျိုးသားချင်းဖြစ်စေ၊ မိတ်ဆွေ သင်္ဂဟ ဖြစ်စေ၊ သွေးမခွဲရ။ သွေးခွဲခြင်းသည် အဆင့်အတန်း မတူသည်ကို အရင်းခံ၏။ လူလူခြင်း၊ အဆင့်အတန်းမခွဲရ။ လူလူခြင်း အဆင့် အတန်း ခွဲခြင်းသည် ကျမ်းမြတ်ကို ဆန့်ကျင်ရာရောက်သည်။

ကျမ်းမြတ်ကို ဆန့်ကျင်လျှင် ငရဲ ဘုံ၌သာ အဆုံးသတ်ရမည် ဖြစ်သည်။

اَلْهُدٰى هُدٰى مُحَمَّدٍ

၃၂။
အဓိပ္ပာယ် ။ ။ လမ်းစဉ်ဟူသည် မိုဟမ္မဒ်သခင်၏ လမ်းစဉ်သာလျှင် အောင်မြင်မှု ရှိသည်။

အလိုသဘော။ ။ သွားလာလှုပ်ရှားမှု၊ နေမှုထိုင်မှု စသည့်တို့နှင့် နိုင်ငံရေး၊ လူမှုရေး၊ စီးပွားရေး၊ အစရှိသည့်အရာတိုင်း အလုပ်တိုင်းတို့သည့် ဘာသာတိုင်းနှင့်ဆန့်ကျင် ဘက်မရှိ။ ခေတ်တိုင်းနှင့် ဆန့်ကျင် ဘက်မရှိ။ အပိုမရှိအလိုမရှိ ဖြစ်သည်သာ မက မိုဟမ္မဒ် (ဆွ) သခင်သည် ကုရ်အာန်၏ လမ်းညွှန်အတိုင်းဖြစ်သည်။

اَلصِّدْقُ يُنْجِىْ وَالْكِذْبُ يُهْلِكُ

၃၃။
အဓိပ္ပာယ် ။ ။ မှန်ကန်ခြင်းသည်အောင်မြင်စေပြီး၊ လိမ်လည်ခြင်းသည် ဆုံးရှုံးစေ၏။

အလိုသဘော။ ။ လူသားတိုင်း၏ ဆန္ဒမွန်သည် မှန်ကန်မှုကိုသာ တောင့်တ၏။ လိမ်လည် ခြင်းကို ရွံမုန်း၏။ အောင်မြင်သောသူတိုင်းသည် မှန်ကန်မှုကြောင့် ဖြစ်ပြီး၊ ဆုံးရှုံးသောသူတိုင်းသည် လိမ်လည်သော သူဖြစ်၏။

اَنَا خَاتَمُ النَّبِيِّيْنَ لَا نَبِيَّ بَعْدِىْ

၃၄။
အဓိပ္ပာယ် ။ ။ ငါကိုယ်တော်မြတ်သည် နောက်ဆုံး နဗီတမန်တော်ဖြစ်သည်။ ငါ၏နောက် နဗီပွင့်မည် မဟုတ်ပေ။

အလိုသဘော။ ။ ကိုယ်တော်နောက်တွင် နဗီပွင့်စရာ အကြောင်းမရှိ။ နဗီပေါ်ခဲ့သော်လည်း အတုသာဖြစ်ပေမည်၊ အစစ်မဖြစ်နိုင်။ ကိုယ်တော်သည် နဗီများ၏ အချုပ် ဖြစ်သည်။ နောက်ဆုံးပိတ်နဗီလည်းဖြစ်သည်။

مَنْ صَلّٰى عَلَيَّ وَاحِدَةً صَلَّى اللّٰهُ عَلَيْهِ عَشْرًا

၃၅။

<u>အဓိပ္ပာယ်</u> ။ ။ ငါကိုယ်တော်မြတ်အပေါ်၌ ဒရူးဒ် (ကောင်းချီးမင်္ဂလာ) တစ်ကြိမ်ပို့သူအား အရှင်မြတ်က (၁၀) ကြိမ်သော ရဟ်မတ်သ်ပို့တော်မူမည်။

<u>အလိုသဘော</u>။ ။ ရှိရှိသမျှသော အရာအားလုံးတို့သည် ကိုယ်တော်အတွက်ကြောင့်သာ ဖြစ်ပေါ်လာရခြင်းဖြစ်သည်။ အရှင်အနှစ်သက်ဆုံး သည် လည်းကိုယ်တော်သာဖြစ်သည်၊ ထို့ကြောင့် ကိုယ်တော်အပေါ် ချစ်ခင်ပါက အရှင့်ဖက်ကလည်း မိမိအချစ်တော်ကို ချစ်သောသူအား ချစ်ခင်လာမည်သာဖြစ်သည်။အရှင့်ဘက်မှ သနားမှု၊ ဂရုဏာထားမှု၊ ချစ်ခင်မှုတို့သည် လူသားများထက် သာလွန်သည်ကိုလည်း ပေါ်လွင်စေသည်။

مَنْ قَالَ لَآ اِلٰهَ اِلَّا اللّٰهُ فَدَخَلَ الْجَنَّةَ

၃၆။

<u>အဓိပ္ပာယ်</u> ။ ။ ကလေမာ " လာအေလာဟာအစ်လလ္လာဟ် " ဖတ်၍ ယုံကြည်လျှင် ဂျန္နသ် သုခဘုံသို့ဝင်ရမည်။

<u>အလိုသဘော</u>။ ။ အကြင်သူ ကလေမာတော်ကို မယုံကြည်က မွတ်စ်လင်မ် မဖြစ်နိုင်။ မွတ်စလင်မ် မဟုတ်သော သူအတွက် ဂျန္နသ်မရှိ။ သုခဘုံသည် အရှင့်လက်ဝယ်၌သာရှိသည်၊ အရှင့်ကိုမယုံကြည်၊ လက်မခံသောသူ အဘယ် ကဲ့သို့ သုခဘုံရရှိတော့မည်နည်း။

اَلطُّهُوْرُ شَطْرُ الْاِيْمَانِ

၃၇။

<u>အဓိပ္ပာယ်</u> ။ ။ သန့်ရှင်းမှုသည် အီမာန်၏ အကိုင်းအခက်ဖြစ်သည်။

<u>အလိုသဘော</u>။ ။ အီမာန်သည် မဏ္ဍိုင်ကြီးငါးရပ်အပေါ် မူတည်သည်။ ထိုငါးရပ်လုံးကို ဆောက်တည်ရာ၌ ကိုယ်လက်အင်္ဂါ စိတ်နှလုံးသန့်ပြန့်ရန် အရေးကြီးသည်၊ ကိုယ်လက်အင်္ဂါ စိတ်နှလုံး မသန့်က ဆောက်တည်ရာတွင် မပြည့်စုံမှု၊ ချွတ်ယွင်းမှု ဖြစ်တတ်၏။

၃၈။ اَلصِّيَامُ جُنَّةٌ

အဓိပ္ပာယ် ॥ ॥ ရိုဇာဟ်သည် ဒိုင်းလွှားဖြစ်သည်။

အလိုသဘော ॥ ॥ (၁) မကောင်းမှုပြုလုပ်ရာ၌ မာန၊ မောဟ၊ ဒေါသ၊ ပစ္စည်းဥစ္စာများဖြင့်သာ ပေါ်ပေါက်တတ်၏။ ထိုအချက်များအဟာရ ဖြတ်တောက်မှုဖြင့် အနိုင်ယူနိုင်သည်။ ထိန်းသိမ်းနိုင်သည်။

(၂) မကောင်းမှု ကုသိုလ်များလုပ်ရာတွင် စိတ်မခိုင်သူအဖို့ မော်ကြွားမှု ပြစားမှု၊ ထယ်ဝါမှုတို့ ပါဝင်နိုင်သည်။

၃၉။ لَا تَجْعَلُوْا بُيُوْتَكُمْ مَقَابِرَ

အဓိပ္ပာယ် ॥ ॥ သင်တို့၏အိမ်များကို အသင်တို့ သင်္ချိုင်းမပြုလုပ်ကြလေနှင့်။

အလိုသဘော ॥ ॥ သင်္ချိုင်းဟူသည် စဂ်ဒါ၊အေဘာဒါသ်အစရှိသည့်တို့ မရှိသော နေရာဖြစ်သည်။ အိမ်တွင် ရှင်သောသူ ဖြစ်ပါလျှက် အေဘာဒါသ်မပြုလျှင် သင်္ချိုင်းနှင့် အလားသဏ္ဍာန်တူပေသည်။ သင်္ချိုင်းသည် အသွားသာ ရှိပြီးအပြန်မရှိပေ။ အိမ်ဟူက အသွား အပြန်ရှိရမည်။

၄၀။ اَلدُّنْيَا سِجْنُ الْمُؤْمِنِ وَجَنَّةُ الْكَافِرِ

အဓိပ္ပာယ် ॥ ॥ လောကသည် မိုအ်မင်န်များအတွက် အကျဉ်းထောင်ဖြစ်ပြီး ကာဖစ်ရ်များအတွက် ဂျန္နသ်ဖြစ်သည်။

အလိုသဘော ॥ ॥ လောကတွင် အီမာန်မရှိက၊ အားလုံးတို့သည်ပျော်ရွှင်စရာပင်ဖြစ်လင့်ကစား၊ တစ်ဘဝသာ ခံစားရမည့် စည်းစိမ်ပင် ဖြစ်သည်။ အီမာန်ရှင်အနေဖြင့် အရာအားလုံးတို့တွင် အရှင်မြတ်၏ အမိန့်အတိုင်းသာ ဖြစ်စေသင့်၏။ ရှရီအတ်သ် ဆိုသော အုတ်တံတိုင်းသည် အီမာန်ရှင်တို့အား လောကစည်းစိမ်ကို ကာရံထားသကဲ့သို့ဖြစ်၏။

## (စွလားသ် (နမာဇ်) နီယာတ်ပုံစံများ)

### နှစ်ရကာအသ်နီယာတ်ပုံစံ)

نَوَيْتُ اَنْ اُصَلِّيَ لِلّٰهِ تَعَالٰى رَكْعَتَيْ صَلٰوةِ الْفَجْرِ / الظُّهْرِ

سُنَّةَ رَسُوْلِ / فَرْضِ اللّٰهِ تَعَالٰى مُتَوَجِّهًا اِلٰى جِهَةِ الْكَعْبَةِ

الشَّرِيْفَةِ اَللّٰهُ اَكْبَرُ ○

### (သုံးရကာအသ်နီယာတ်ပုံစံ)

نَوَيْتُ اَنْ اُصَلِّيَ لِلّٰهِ تَعَالٰى ثَلَاثَ رَكَعَاتِ

صَلٰوةَ الْمَغْرِبِ / الْوِتْرِ فَرْضِ / وَاجِبِ اللّٰهِ تَعَالٰى مُتَوَجِّهًا

اِلٰى جِهَةِ الْكَعْبَةِ الشَّرِيْفَةِ اَللّٰهُ اَكْبَرُ ط

### (လေးရကာအသ်နီယာတ်ပုံစံ)

نَوَيْتُ اَنْ اُصَلِّيَ لِلّٰهِ تَعَالٰى اَرْبَعَ رَكَعَاتِ صَلٰوةِ

الْعَصْرِ / الْعِشَاءِ سُنَّةَ رَسُوْلِ / فَرْضِ اللّٰهِ تَعَالٰى مُتَوَجِّهًا

اِلٰى جِهَةِ الْكَعْبَةِ الشَّرِيْفَةِ اَللّٰهُ اَكْبَرُ ط

မှတ်သားချက်

ဖရပ်စ်နမာဇ် (စွလားသ်) သာလျှင် ရှေ့ဆောင်ဆရာနှင့် လိုက်၍ ဝတ်ပြုရ၏။ ထိုသို့ ဝတ်ပြုသောအခါ فَرَضَ اللهِ تَعَالٰى ပြီးသည်နှင့် اِقْتَدَيْتُ بِهٰذَا الْإِمَامِ

ထည့်ဆိုရသည်။ ပြီးမှ ကျန်သည်တို့ကို ဆက်လက်ဆိုရပေမည်။ မိမိဖာသာ မိမိဖရပ်စ်စွလားသ် ကို ဝတ်ပြုပါက။ ဖော်ပြပါ اِقْتَدَيْتُ بِهٰذَا الْإِمَامِ

ကို ထည့်မဆိုရပေ။

မိမိအနေဖြင့် (အေမာန်) ရှေ့ဆောင်ဆရာအဖြစ် ဆောင်ရွက်လျှင်

اِقْتَدَيْتُ بِهٰذَا الْإِمَامِ အစား

اَنَا اِمَامٌ لِمَنْ حَضَرَ وَمَنْ يَّحْضُرُ ဟုထည့်ဆိုရပေသည်။

နာမာဇ် (စွလားဘ်) ဝတ်ပြုရာတွင် ရွတ်ဖတ်ရသော ကျမ်းစာပိုဒ်များ

စွလားသ် ဝတ်ပြုရန် အသင့်ဖြစ်သောအခါ

اِنِّيْ وَجَّهْتُ وَجْهِيَ لِلَّذِيْ فَطَرَ السَّمٰوٰتِ وَالْاَرْضَ
حَنِيْفًا وَّمَا اَنَا مِنَ الْمُشْرِكِيْنَ ۝

စွလားသ် နီယာဝတ်ပြုပြီးလျှင်ပြီးချင်း ရွတ်ဆိုရသော သပ်ကာဗီးရ်နှင့်စနာ

اَللّٰهُ اَكْبَرُ

سُبْحٰنَكَ اللّٰهُمَّ وَبِحَمْدِكَ وَتَبَارَكَ اسْمُكَ وَتَعَالٰى
جَدُّكَ وَلَآ اِلٰهَ غَيْرُكَ ۝

စနာရွတ်ဖတ်ပြီး ဖတ်ရသော သအ်ဝုဇ်

اَعُوْذُ بِاللّٰهِ مِنَ الشَّيْطَانِ الرَّجِيْمِ

သပ်စမီယာ

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

(ရကူအ်) ဦးညွှတ်သောအခါ ဖတ်ရန်    (၃ - ကြိမ်)

سُبْحَانَ رَبِّيَ الْعَظِيْمِ

ဦးညွှတ်ရာမှ ထရပ်စဉ်ဖတ်ရန်

سَمِعَ اللّٰهُ لِمَنْ حَمِدَهٗ

ဦးညွှတ်ရာမှ ရပ်နေချိန်ဖတ်ရန်

رَبَّنَا لَكَ الْحَمْدُ

(စဂျ်ဒါဟ်) ဦးချနေသောအခါ ဖတ်ရန်    (၃ - ကြိမ်)

سُبْحَانَ رَبِّيَ الْاَعْلٰى

(သရာဟ်ဟွတ်ဒ်) ပုဆစ်တုပ်၍ ထိုင်သောအခါ ရွတ်ဖတ်ရန်

اَلتَّحِيَّاتُ لِلّٰهِ وَالصَّلَوٰةُ وَالطَّيِّبَاتُ اَلسَّلَامُ عَلَيْكَ
اَيُّهَا النَّبِيُّ وَرَحْمَةُ اللّٰهِ وَبَرَكَاتُهٗ اَلسَّلَامُ عَلَيْنَا وَعَلٰى
عِبَادِ اللّٰهِ الصّٰلِحِيْنَ ط اَشْهَدُ اَنْ لَّآ اِلٰهَ اِلَّا اللّٰهُ
وَاَشْهَدُ اَنَّ مُحَمَّدًا عَبْدُهٗ وَرَسُوْلُهٗ ٥

ဒရူးဒ်ရှရီးဖ်

اَللّٰهُمَّ صَلِّ عَلٰى سَيِّدِنَا مُحَمَّدٍ وَّعَلٰى اٰلِ مُحَمَّدٍ كَمَا
صَلَّيْتَ عَلٰى اِبْرَاهِيْمَ وَعَلٰى اٰلِ اِبْرَاهِيْمَ اِنَّكَ حَمِيْدٌ
مَّجِيْدٌ ط اَللّٰهُمَّ بَارِكْ عَلٰى مُحَمَّدٍ وَّعَلٰى اٰلِ مُحَمَّدٍ
كَمَا بَارَكْتَ عَلٰى اِبْرَاهِيْمَ وَعَلٰى اٰلِ اِبْرَاهِيْمَ اِنَّكَ حَمِيْدٌ مَّجِيْدٌ ط

ဒိုအာမာဆူရာ

اَللّٰهُمَّ اِنِّىْ ظَلَمْتُ نَفْسِىْ ظُلْمًا كَثِيْرًا وَّاِنَّهٗ لَا يَغْفِرُ
الذُّنُوْبَ اِلَّا اَنْتَ فَاغْفِرْ لِىْ مَغْفِرَةً مِّنْ عِنْدِكَ وَارْحَمْنِىْ
اِنَّكَ اَنْتَ الْغَفُوْرُ الرَّحِيْمُ ط

ဒိုအာကုနူးသ် (ဝိသစ်ရ်) နမာဇ် တွင် ထည့်ဆိုရန်

اَللّٰهُمَّ اِنَّا نَسْتَعِيْنُكَ وَنَسْتَغْفِرُكَ وَنُؤْمِنُ بِكَ وَنَتَوَكَّلُ
عَلَيْكَ وَنُثْنِىْ عَلَيْكَ الْخَيْرَ ط وَنَشْكُرُكَ وَلَا نَكْفُرُكَ وَنَخْلَعُ
وَنَتْرُكُ مَنْ يَّفْجُرُكَ - اَللّٰهُمَّ اِيَّاكَ نَعْبُدُ وَلَكَ نُصَلِّىْ
وَنَسْجُدُ وَاِلَيْكَ نَسْعٰى وَنَحْفِدُ وَنَرْجُوْا رَحْمَتَكَ
وَنَخْشٰى عَذَابَكَ اِنَّ عَذَابَكَ بِالْكُفَّارِ مُلْحِقٌ ط

တရာဝိလေး ရကအတ်သ်ဖတ်ပြီးနား:သောအခါ ဖတ်ရန်

سُبْحٰنَ ذِى الْمُلْكِ وَالْمَلَكُوْتِ سُبْحٰنَ ذِى الْعِزَّةِ
وَالْعَظَمَةِ وَالْهَيْبَةِ وَالْقُدْرَةِ وَالْكِبْرِيَآءِ وَالْجَبَرُوْتِ
سُبْحَانَ الْمَلِكِ الْحَىِّ الَّذِىْ لَا يَنَامُ وَلَا يَمُوْتُ ط سُبُّوْحٌ
قُدُّوْسٌ رَبُّنَا وَرَبُّ الْمَلٰٓئِكَةِ وَالرُّوْحِ ط اَللّٰهُمَّ
اَجِرْنَا مِنَ النَّارِ يَا مُجِيْرُ يَا مُجِيْرُ يَا مُجِيْرُ ط

# ကလေမာ ယေတ္တိုင် ယေဗါဟ်

## ပထမ ကလေမာသန့်ရှင်းခြင်း

### လုံးခြင်းကောက် အဓိပ္ပာယ်

لَآ اِلٰهَ - မည်သူမှ ခဝပ်ကိုးကွယ်ခြင်း ခံထိုက်သူမရှိ

اِلَّا اللّٰهُ - အလ္လာဟ်အရှင်မြတ်မှတစ်ပါး

مُحَمَّدٌ - မိုဟမ္မဒ် (စွ) သခင်သည်

رَّسُوْلُ اللّٰهِ - အလ္လာဟ် အရှင်မြတ်၏ စေလွှတ်တော်မူသောရစူလ်တမန်တော်ဖြစ်တော်မူ၏။

### စကားပြေ အဓိပ္ပာယ်

အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြား ခဝပ်ကိုးကွယ်ခံထိုက်သော အရှင်မရှိ။ မိုဟမ္မာဒ်သခင် (စွ) သည် အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော်ဖြစ်တော်မူသည်။

### ပထမ ကလေမာ သံပေါက်

ရှေးဦးကလေမာ   ယုံကြည်စွာ   သေချာခံယူပါ၊
အလ္လာဟ်ကိုသာ   ကိုးကွယ်ရာ   စွဲစွာယုံကြည်ပါ၊
ကိုးကွယ်ညွှတ်တွား   ရှင်မှတစ်ပါး   အခြားမရှိပါ၊
မိုဟမ္မာဒ်သခင်   ရစူလ်စင်   အရှင် စေလွှတ်ရာ၊
တမန်တော်စစ်   အမှန်ဖြစ်   နှစ်နှစ်ယုံကြည်ပါ။

### ပထမ ကလေမာ လင်္ကာ

ရှင်မြတ်အလ္လာဟ်တစ်ပါးသာ   မှန်စွာကိုးကွယ်ထိုက်ပါတယ်၊
အလ္လာဟ်အပြင် အခြားရှင်   မှန်ပင်ဘယ်မှ မရှိတယ်၊
မိုဟမ္မဒ်ပင် စေအရှင်   ရစူလ်သခင်ဖြစ်ပါတယ်၊

ကလေမာတွိုင် ယေဗာဟ်   အဓိပ္ပာယ်ပါ
သေချာယုံမှ   မွတ်စလင်မ်ကွယ်
ယုံတယ်   ယုံတယ်   ဒိုယုံတယ်

## ပထမ ကလေမာ ရှင်းချက်

ဤကလေမာသည် အလွန်မှ မွန်မြတ်သော ကလေမာ တစ်ပုဒ်ဖြစ်သည်။ ၎င်း ကလေမာကိုရွတ်ဆိုခြင်းအားဖြင့် များစွာသော အကျိုးကုသိုလ်များ ရရှိ၏။ ၎င်းအကျိုး များစွာ အနက်မှ အချို့ကို ဖော်ပြရလျှင် ---

(၁) ဤကလေမာကို ယုံကြည်စွာဖြင့် ကာဖစ်ရ်တစ်ဦးက ဖတ်၍ အစ္စလာမ်ကို လက်ခံ လိုက်ပါက ၎င်းပြုခဲ့သော အကုသိုလ်များ အားလုံး ပပျောက်သွားလေသည်။

(၂) ဟဒီးစ်တော်တစ်ပုဒ်မှာ လာရှိသည်မှာ တမန်တော် မူစါ (အ) က အလ္လာဟ် အရှင် မြတ်အား တသရန် အတွက် သီးသန့် " သစ်ကိရ်" တစ်ခုပေးသနားတော်မူရန် လျှောက် ထားလေရာ အလ္လာဟ်က " လာအေလာဟာအစ်လလ္လာ " ဖတ်ပါဟု မိန့် လေ၏။ တမန်တော်မူစါ (အ)က ဤသစ်ကိရ်သည် လူအများ တသကြ၏။ ကျွန်တော်မျိုးအတွက် အများနှင့် မတူသော သစ်ကိရ်တစ်ခုကို ပေးသနားတော်မူပါ ဟု လျှောက်ပြန်၏။ အလ္လာဟ်က " လာအေလာဟာအစ်လလ္လာ " သာဖတ်ပါဟု မိန့်၏။ တမန်တော်မူစါ (အ) ကသီးသန့် " သစ်ကိရ် " ချီးမြှင့်ပေးသနားတော်မူပါ ဟု လျှောက်လေ၏။ ထိုအခါ အလ္လာဟ်အရှင်မြတ်က အို -- မူစာ အသင်သိပါ သလော၊ ဤ သစ်ကိရ်သည် လောကမှ ရှိရှိသမျှသော အရာအားလုံးကို ချိန်ခွင်၏ တစ်ဖက် မှာထား ဤသစ်ကိရ်ကို ချိန်ခွင်တစ်ဖက်မှာ ထား၍ ချိန်ပါက ဤ "သစ်ကိရ်" သာလျှင် အချိန်စီးနေပေမည်။

ဤဟဒီးစ်တော်ကို သုံးသပ်ခြင်းအားဖြင့် ပထမ ကလေမာသည် အလွန်မှ တန်ဘိုး ကြီးလှပေသည်။ ထို့ပြင် ဤကလေမာသည် အလွန်မှသန့်ရှင်းလေသည်၊ ထို့ကြောင့် သန့်ရှင်း သော ကလေမာဟု အမည်ပေးထား၏။ အကြောင်းမှုကား ကျွန်ုပ်တို့အများ ယုံကြည်ခဝပ် ကိုးကွယ်သော အရှင်သည် ဖော်မပြနိုင်လောက်အောင် သန့်ရှင်းတော်မူခြင်း၊ အရှင်စေလွှတ် သော နောက်ဆုံး နဗီမိုဟာမ္မဒ် (ဆွ) သည်လည်း သန့်ရှင်းစင်ကြယ်တော်မူ၏။

အဓိက အချက်တစ်ချက်မှာ ဤကလေမာကို ဖတ်ပြီး မယုံကြည်လျှင် ကာဖစ်ရ် ဖြစ်ပြီး၊ စိတ်ထွင်ယုံကြည်စွာ ရွတ်ဆိုလျှင် ပီသသော မိုအ်မင်န်ဖြစ်မည်။ ဤကလေမာသည် အီမာန်အတွက် အဓိက လိုအပ်သော အချက်တစ်ချက်ဖြစ်သည်ကို အထူး သတိပြုသင့်လေ သည်။

## မေးခွန်း

၁။ ပထမ ကလေမာ၏ မွန်မြတ်ခြင်း အကြောင်းရှင်းပြပါ။

၂။ ပထမ ကလေမာဖြင့် အရှင့်အား တသလို ရပါသလား။

၃။ ပထမ ကလေမာကို အဘယ်ကြောင့် သန့်ရှင်းသော ကလေမာဟု အမည်ပေးထား ပါသနည်း။

၄။ ပထမ ကလေမာ၏ အဓိကကျသော အချက်တစ်ချက်ကို ဖော်ပြပါ။

## ကလေမာယေရှဟာဒသ်
## ဒုတိယ ကလေမာ သက်သေပေးခြင်း
## လုံးခြင်းကောက် အဓိပ္ပာယ်

أَشْهَدُ – ကျွန်တော်မျိုး / မသည် သက်သေခံ အပ်ပါသည်၊

أَنْ – ဤသို့

لَآ إِلٰهَ – မည်သူမှ ခဝပ်ကိုးကွယ်ခြင်း ခံထိုက်သူမရှိ။

إِلَّا اللّٰهُ – အလ္လာဟ်အရှင်မြတ်မှတစ်ပါး

وَأَشْهَدُ – ၄င်းနောက် ကျွန်တော်မျိုး/ မသည် သက်သေ ခံအပ်ပါသည်။

أَنَّ – စကန်အမှန်

مُحَمَّدًا – မိုဟမ္မဒ် (ဆွ) သခင်သည်

عَبْدُهٗ – အလ္လာဟ်အရှင်မြတ်၏ ဗန္ဓာ အစေတော်နှင့်

وَرَسُوْلُهٗ – စေလွှတ်တော်မူသော ရစူလ်တမန်တော် ဖြစ် တော်မူ၏။

## စကားပြေ အဓိပ္ပာယ်

အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြား ခဝပ်ကိုးကွယ်ခံထိုက်သော အရှင်မရှိကြောင်းကို ကျွန်တော်မျိုး/ မသည် သက်သေခံအပ်ပါသည်။ ၎င်းနောက် မိုဟမ္မာဒ်သခင် (စွ) သည် အလ္လာဟ်အရှင်မြတ်၏ ဗန္ဒာအစေတော်နှင့် ရစူလ်တမန်တော် ဖြစ်ကြောင်းကိုလည်းသက်သေခံအပ်ပါသည်။

## ဒုတိယ ကလေမာ သံပေါက်

အီမာန်သက်ဝင်မွတ်စလင်မ် စိတ်တွင်စွဲယူပါ၊
ဒုတိယမှာ ဝန်ခံရာ ရှာဟာဒသ်မြတ်စွာ၊
အတုလစဉ် အလ္လာဟ်ရှင် ရှင်ထင်တစ်ပါးသာ၊
အရှင်မှတစ်ပါး ခဝပ်တွား အခြားမရှိပါ၊
မိုဟမ္မာဒ် သခင်ရစူလ်ရှင် အရှင့်အစေပါ၊
ကိုယ်တော်သာလျှင် တမန်ရှင် ထင်ထင်ဝန်ခံရာ၊
ကျွန်ုပ်တို့အများ ဝန်ခံထား မနားထပ်ထပ်ခါ။

## ဒုတိယ ကလေမာ လင်္ကာ

အလ္လာဟ်မှတစ်ပါးရှင်အခြား အားထားကိုးကွယ်မရှိပါ၊
တမန်မြတ်ထွင့်အလ္လာ့ဟ်ဝတ် မချွတ်ပြုသူဖြစ်ပါသည်၊
တမန်တော်မြတ် မိုဟမ္မဒ် မြင့်မြတ်ရစူလ်ဖြစ်ပါသည်၊
ဖော်ပြအပေါင်း မှန်ကန်ကြောင်း မနှောင်း ကတိဝန်ခံသည်၊

( တစ်သက်ဝယ် ...... မပျက်ပြယ် ) ၂

## ဒုတိယ ကလေမာရှင်းချက်

ဤကလေမာသည်လည်း အလွန်ထူးကဲ၏။ အသက်ငင်နေသော လူမမာအနားတွင် ဤကလေမာကို များစွာ ရွတ်ဖတ်ပေးခြင်းအားဖြင့် သေသူသည် အီမာန်နှင့် တကွ ပါသွားနိုင်ပေသည်။ သေသူအား လိုက်ပို့သောအခါတွင်လည်း ရွတ်ဖတ်ပေးရ၏။ သို့သော် ကျယ်လောင်သော အသံဖြင့် ဟစ်အော်မဆိုရပေ။ ထိုသို့ပြုခြင်း (ဗစ်သအသ်) ဖြစ်၏။

ဤကလေမာတွင် ကဏ္ဍနှစ်ခုပါဝင်သည်။ ပထမကဏ္ဍမှာ အလ္လာဟ်အား ယုံကြည်သူသာ မကပဲ ပို၍ လေးနက်မှုရှိစေရန် သက်သေထူသည်က တစ်ကြောင်း၊ ဒုတိယ

ကဏ္ဍာမှာ တမန်တော် မိုဟမ္မဒ် (စွ) သည် ထိုအရှင်မြတ်က စေလွှတ်သော ရစူလ်နဗီ ဖြစ်သည်ကို လက်ခံသည့်အပြင် မှန်ကန်ကြောင်း ထပ်လောင်း၍ သက်သေထူထားပါသည်။ ဤကလေမာဖြင့် အလ္လာဟ်အားတသနိုင်ပါသည်။

## မေးခွန်းများ

၁။ ဒုတိယ ကလေမာ၏ ထူးခြားချက်ကို ရှင်းပြပါ။

၂။ ဒုတိယ ကလေမာတွင် ကဏ္ဍမည်မျှ ပါဝင်သနည်း။ ၎င်းတို့ကို ရှင်းပြပါ။

၃။ ဤကလေမာဖြင့် အလ္လာဟ်အား တသလို့ ရပါသလား။

## ကလေမာ ယေတမ်ဂျီးဒ်
## တတိယ ကလေမာ ကြီးကဲမြင့်မြတ်ခြင်း
## လုံးခြင်းကောက်အဓိပ္ပာယ်

سُبْحَانَ اللّٰهِ — အလ္လာဟ်အရှင်မြတ်သည် သန့်ရှင်းစင်ကြယ်တော်မူ၏။

وَالْحَمْدُ لِلّٰهِ — ချီးမွမ်းထောပနာပြုခြင်းအပေါင်းတို့သည် အလ္လာဟ် အရှင်မြတ်အဖို့သာလျှင်ဖြစ်သည်။

وَلَآ اِلٰهَ — ၎င်းမည်သူမှ ခဝပ်ကိုးကွယ်ခြင်းခံထိုက်သူမရှိ။

اِلَّا اللّٰهُ — အလ္လာဟ်အရှင်မြတ်မှတစ်ပါး

وَاللّٰهُ اَكْبَرُ — ၎င်းအလ္လာဟ်အရှင်မြတ်သည် အကြီးကျယ်ဆုံး၊ အမြင့်မြတ်ဆုံး ဖြစ်တော်မူသည်။

وَلَاحَوْلَ وَلَا قُوَّةَ — ပြစ်မှု ဒုစရိုက်များမှ ရှောင်ရှားနိုင်ရန်၊ ကောင်းမှုများ ပြုကျင့်နိုင်ရန် မည်သူမှ စွမ်းအားမရှိ။

اِلَّا بِاللّٰهِ الْعَلِيِّ الْعَظِيْمِ — သို့သော် ကြီးကဲမြင့်မြတ်တော်မူသော အလ္လာဟ် အရှင်မြတ်က စောင်မတော်မူမှသာလျှင်ကတော်စွမ်းနိုင်ပေသည်။

## စကားပြေအဓိပ္ပာယ်

အလ္လာဟ်အရှင်မြတ်သည် သန့်ရှင်းစင်ကြယ်တော်မူ၏။ ချီးမွမ်းထောပနာပြုခြင်း အပေါင်းတို့သည် အလ္လာဟ်အရှင်မြတ်အဖို့ သာလျှင်ဖြစ်၏။ ၎င်းပြင် အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားခဝပ်ကိုးကွယ်ခံထိုက်သော အရှင်မရှိ။ ထိုအရှင်သည် အကြီးကျယ်ဆုံး၊ အမြင့်မြတ်ဆုံး ဖြစ်တော်မူ၏။ ပြစ်မှုဒုစရိုက်များမှ ရှောင်ရှားနိုင်ရန်၊ ကောင်းမှုများ ပြုကျင့်နိုင်ရန် မည်သူမှ စွမ်းအားမရှိ၊ သို့သော် ကြီးကဲမြင့်မြတ်တော်မူသောအလ္လာဟ်အရှင်မြတ်က စောင်မတော်မူမှသာလျှင် တတ်စွမ်းနိုင်ပေသည်။

## တတိယ ကလေမာ သံပေါက်

တတိယ ကလေမာတမ်ဂျီးဒ်မှာ ယုံစွာဖန်ဆင်းရှာ၊
ချို့တဲ့မှုကင်းပြိုင်စံရှင်း ထင်လင်းမြတ်အလ္လာဟ်
ချီးကျူးမွမ်းရာ ဂုဏ်ပေါင်းမှာ အလ္လာဟ် အတွက်သာ
အလ္လာဟ်မှ တစ်ပါး ကိုးအားထား အခြားမရှိပါ၊
ကြီးမြတ်ခေါင်ဆုံး အရှင့်ဘုန်း မနှိုင်း မဆသာ၊
ကာကွယ်စွမ်းသူ ချီးထိုက်သူ အလ္လာဟ်ဟူ မှတ်ပါ။
စွမ်းရည်ပိုင်ရှင်စိုးမိုးရှင် မြဲစဉ်အလ္လာဟ်သာ။

## တတိယ ကလေမာ ရှင်းချက်

ဟာဒီးစ်တော် တစ်ပုဒ်မှာ လာရှိသည်မှာ ကေယာမဒ်နေ့၌ ဤကလေမာတစ်ခေါက် ရွတ်ဖတ်သူများအား သစ်ပင်တစ်ပင်ရရှိမည်ဟုလာရှိသည်။ အရိပ်မရှိသော ထိုနေ့၌ ဤကလေမာ ဖတ်ခြင်းဖြင့် အရိပ်ရမည်။ ဆိုလိုသည်မှာ အရှင်၏ ကျေးဇူးတော်ပင်ဖြစ်၏။ ဤကလေမာကို တစဗီရေဖာတွေမာ ဟုလည်း ခေါ်၏။ အဘယ့်ကြောင့်ဆိုသော် တမန်တော်မြတ် (ဆွ) က အချစ်တော် သမီး ဖာတွေမာ (ရသွေ.) သခင်မအား ချီးမြှင့်သော တစဗီသည် ဤကလေမာပင်ဖြစ်၏။ ဤကလေမာကို စွတ်ဗဟားနတ်လ်လား (၃၃) ကြိမ်၊ အတ်လ်ဟမ်ဒိုလိလ္လာ (၃၃) ကြိမ်၊ အတ်လ္လားဟိုအတ်က်ဗတ်ရ် (၃၄) ကြိမ်၊ ရွတ်ဖတ်၍ ကိုယ့်ကိုယ်ကို မန်းမှုတ်ပေးပါက တစ်ညလုံး လူတစ်ဦးလာရာက်နှိပ်နယ်ပေးသကဲ့သို့ ဖြစ်၏။

တမန်တော်မြတ် (ဆွ) အမိန့်ရှိသည်မှာ အကြင်သူသည် ဤကလေမာတော်ကို နေ့စဉ်ရွတ်ဖတ်လျှင် နွေအခါသစ်ပင်မှ သစ်ရွက်များကြွေကျသကဲ့သို့ ၎င်းဖတ်သူ၏အပြစ်များ ချွတ်ကယ်တော်မူသည်။

ကိုယ်တော်မြတ် (ﷺ) အမိန့် ရှိသည်မှာ အလွန်ကောင်းမြတ်သော ကောင်းမှု နှစ်ခု ရှိပါသည်။ ၎င်းကောင်းမှုကို ကရစိုက်၍ မွတ်စလင်များ ကျင့်သုံးပါက ဂျန္နသို့ ဝင်ရပါလိမ့်မည်။ ထိုလွယ်ကူသော ကောင်းမှုကို ကျင့်သုံးသူများ နည်းပါးလှပါသည်။

(၁) ပထမ ကောင်းမှုတစ်ခုမှာ စွလားသ် (နမာဇ်) ငါးကြိမ်ဖတ်ပြီးတိုင်း "စွတ်ဗဟာနတ်လ္လာဟေ" (၁၀) ကြိမ်၊ "အတ်လ်ဟမ်ဒိုလိလ္လာ" (၁၀) ကြိမ်၊ အတ်လ္လာဟိုအတ်က်ဗတ်ရ် (၁၀) ကြိမ် ရွတ်ဖတ်ကြပါကုန်။ ထိုသို့ ရွတ်ဖတ်ခြင်းဖြင့် တစ်နေ့လျှင် (၁၅၀) တစ်ရာ့ငါးဆယ်သော ကုသိုလ်ကို ရပါသည်။ ဤသို့ ပြုခြင်းဖြင့် ရရှိမည့် အပြစ်အစား ကောင်းမှုကုသိုလ်ကို ရပါသည်။

(၂) ဒုတိယကောင်းမှုမှာ အိပ်ယာဝင်ချိန်တွင် " အလ္လာဟိုအတ်က်ဗတ်ရ် " (၃၄) ကြိမ်၊ " အဟ်လ်ဟမ်ဒိုလိလ္လဝဟ် " (၃၃) ကြိမ်၊ " စွတ်ဗဟား နတ်လ္လာဟေ " (၃၃) ကြိမ်၊ ရွတ်ဖတ်ကြကုန်။ ဤသို့ ရွတ်ဖတ်ခြင်းဖြင့် ကလေမာ (၁၀၀) ကြိမ် ဖတ်ပြီးသား ဖြစ်လေသည်။ ၎င်း၏ ကုသိုလ်မှာ–

တစ်ထောင် (၁၀၀၀) ရရှိမည်ဖြစ်သည်။

နောက်ဟဒီးစ်တော်တစ်ပါး၌ လာရှိသည်မှာ တမန်တော်မြတ် (ﷺ) က အမိန့်ရှိသည်မှာ အသင်တို့ တတွေ နေ့စဉ် တစ်ထောင်မျှရသော ကုသိုလ်များကို ပြုကြကုန်။ စွဟာဗာ (ရသွေ့) တစ်ပါးက လျှောက်သည်မှာ အို– ကိုယ်တော်မြတ် (ﷺ) နေ့စဉ်တစ်ထောင်မျှသော ကောင်းမှု ကုသိုလ်ကိုအဘယ်သို့ပြုရပါမည်နည်း၊ ကိုယ်တော်မြတ် (ﷺ) က နေ့စဉ် ကလေမာ တမ်ဂျီးဒ်၊ (တတိယကလေမာ) ကို (၁၀၀) တစ်ရာဖတ်ကြပါ။ နေ့စဉ်တစ်ထောင်ကုသိုလ် (စဝါးဗ်) ရရှိပေမည်။

ဤကလေမာကို ကြီးကဲမြင့်မြတ်သော ကလေမာဟု ပေးထားရခြင်းမှာ အရှင်သည် အလွန်မှ ကြီးကဲမြင့်မြတ်ကြောင်းဆိုသော စကားလုံးဖြင့်ပင် သိနိုင်ပေသည်။

## မေးခွန်းများ

၁။ ဤကလေမာ၏ အကျိုးထူးပုံကို ရှင်းပြပါ။

၂။ ဤကလေမာကို တစဗီရေဖာတွေမာဟု ခေါ် လို့ရပါသလား။ အကြောင်းပြဖြေဆိုပါ။

၃။ ကြီးကျယ်မြင့်မြတ်သော ကလေမာဟု အဘယ်ကြောင့် ပေးရပါသနည်း။

## ကလေမာ ယေတောင်ဟီးဒ်

## စတုတ္ထ ကလေမာ တစ်ပါးတည်းတည်ရှိခြင်း

### လုံးခြင်းကောက်အဓိပ္ပာယ်

لَآ اِلٰهَ — မည်သူမှ ခဝပ်ကိုးကွယ်ခြင်းခံထိုက်သူ မရှိ

اِلَّا اللّٰهُ — အလ္လာဟ်အရှင်မြတ်မှတစ်ပါး

وَحْدَهٗ — အလ္လာဟ်အရှင်မြတ်တစ်ပါးတည်းတည်ရှိတော်မူသည်။

لَا شَرِيْكَ لَهٗ — အလ္လာဟ်အရှင်မြတ်နှင့် တုဖက်နိုင်းယှဉ်ရန် မည်သူမှ စွမ်းအားမရှိ။

لَهُ الْمُلْكُ — စိုးပိုင်ခြင်းဟူသမျှတို့သည် အလ္လာဟ်အရှင်မြတ်အဖို့ ဖြစ်၏။

وَلَهُ الْحَمْدُ — ၎င်းချီးမွမ်းထောပနာပြုခြင်းအပေါင်းတို့သည် အလ္လာဟ်အရှင်မြတ်အဖို့ဖြစ်။

يُحْيِىْ وَيُمِيْتُ — ရှင်စေ၊ သေစေခြင်းသည် အလ္လာဟ်အရှင်မြတ်၏ လက်ဝယ်၌ရှိ၏။

بِيَدِهِ الْخَيْرُ — ကောင်းမြတ်မင်္ဂလာ အပေါင်းသည် ထိုအရှင်၏ လက်တော်ဝယ်၌ရှိ၏။

وَهُوَ عَلٰى كُلِّ شَىْءٍ قَدِيْرٌ — ၎င်းအလ္လာဟ်အရှင်မြတ်သည် စကြ်ဝဠာ အားလုံးကို ပြုစွမ်းနိုင်တော်မူသော အရှင်ဖြစ်၏။

### စကားပြေအဓိပ္ပာယ်

အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြား ခဝပ်ကိုးကွယ်ရာ အရှင်မရှိ။ ထိုအရှင်မြတ်သည် တစ်ပါးတည်း တည်ရှိတော်မူ၏။ ထိုအရှင်နှင့် တုဖက်နိုင်းယှဉ်ရန် မည်သူမှ မရှိ၊ စိုးပိုင်ခြင်း

ဟူသမျှသည် ထိုအရှင်အဖို့သာလျှင်ဖြစ်၏။ ၎င်းပြင်ချီးမွမ်းခြင်း အပေါင်းသည် ထိုအရှင်သာလျှင် ခံယူထိုက်တော်မူ၏။ ရှင်စေ သေစေခြင်းနှင့် အကောင်းအဆိုးဟူသမျှတို့သည် ထိုအရှင်မြတ်၏ လက်ဝယ်၌ပင်ရှိ၏။ အလ္လာဟ်အရှင်မြတ်သည် စကြာဝဠာအားလုံးကို ပြုစွမ်းနိုင်တော်မူသော အရှင်ဖြစ်တော်မူ၏။

## စတုတ္ထ ကလေမာ သံပေါက်

စတုတ္ထကလေမာ သန့်ရှင်းစွာ မှတ်ရာတောင်ဟီးဒ်ပါ
အလ္လာဟ်မှ တစ်ပါး ခွဲကိုယ်စား အခြားမရှိပါ။
မြတ်ရှင်အလ္လာဟ်ကိုးကွယ်ရာ ယုံပါတစ်ဆူသာ၊
အလ္လာဟ်နှင့် အတူယှဉ်ပြိုင်မှု ဂုဏ်တူမရှိရာ၊
စကြာဝဠာ တစ်ခုမိုးမြေပြန့် ပိုင်ရှင်အလ္လာဟ်သာ၊
ရှင်စေ၊ သေစေ၊ အာဏာတွေ ပိုင်လေအလ္လာဟ်သာ
ကောင်းခြင်းအဖြာဖြာ၊ မွန်မြတ်ရာ အလ္လာဟ်ထံတွင်သာ၊
ခပ်သိမ်းကုန်စင် စွမ်းနိုင်အင် မြတ်ရှင်အလ္လာဟ်သာ။
တောင်ဟီးဒ် ကလေမာလာအောလာ စွဲစွာ မှတ်ယူပါ။

## စတုတ္ထ ကလေမာ ရှင်းလင်းချက်

ဟဒီးစ်တော်တစ်ပါးတွင် လာရှိသည်မှာ အကြင်သူသည် ဖရပ်စ်နာမာဇ် (စွလားသ်) များ ဆောက်တည်သောအခါ ယင်းဖရပ်စ်နာမာဇ် (စွလားသ်) များ၏ နောက်တိုင်း ဤကလေမာတော်ကို (၁၀) တစ်ဆယ်ကြိမ်တိတိ ဖတ်ရွတ်လျှင် ငွေဝယ်ကျွန် တစ်ယောက်သူကောင်းပြုသော အကျိုးစပါဗ် (ကုသိုလ်) ရရှိပါသည်။

နောက်ဟဒီးစ်တော်တစ်ပါး၌လာရှိသည်မှာ အကြင်သူသည် (စွလားသ်)နမာဇ်တိုင်း၏နောက် " စွတ်ဗဟာနတ်လ္လာ " (၃၃) ကြိမ်၊ " အတ်လ်ဟမ်ဒိုလိလ္လာ " (၃၃) ကြိမ်၊ "အလ္လာဟိုအတ်ကဗတ်ရ်" (၃၃) ကြိမ်နှင့် စတုတ္ထ ကလေမာကို တစ်ကြိမ်ရွတ်ဖတ်လိုက်ပါက ၎င်း၏အပြစ် (ဂိုနာဟ်) များသည် ပင်လယ်သမုဒ္ဒရာ၏ ရေမြှုပ်များနှင့် အမျှ များပြားနေစေကာမူ အလ္လာအရှင်မြတ်က ချမ်းသာခွင့်လွှတ်တော်မူမည်။

နောက်ဟဒီးစ်တော်တစ်ပါးမှာ လာရှိသည်မှာ ဤကလေမာကို ဖတ်၍ ဈေးသို့ဝင်ရောက်ပါက သ္မ်န်း (၂၀) ရှိသော အကျိုးစဝါဗ်ကို ရရှိပေမည်။ နောက်လည်းများစွာသော အကျိုးစဝါဗ်ကို ရရှိစေ၏။

ဤကလေမာကို တစ်ပါးတည်းတည်ရှိသော ကလေမာဟု အမည်ပေးထား၏။ အကြောင်းရင်းမှာ( وَحۡدَهٗ لَا ) ဟူသော စကားစုသည် အလ္လာဟ် တစ်ပါးတည်းသာ ရှိသောကြောင့် အခြားမည်သည့်အရာကိုမှ ခဝပ်ကိုးကွယ်ရာမရှိ၊ ထိုအရှင်တစ်ပါးတည်းကိုသာလျှင်ကိုးကွယ်ရမည်ကို ရည်ညွှန်းထားခြင်းကြောင့်ဖြစ်သည်။ ထို့ပြင်ပိုင်ဆိုင်ခြင်း၊ စိုးမိုးခြင်း၊ အိပ်သွန်ဖာမှောက်ပြုလုပ်နိုင်ခြင်းစသည့်တို့သည် တစ်ပါးတည်းသော အရှင်သာပြုနိုင်ကြောင်းသိရ၏။

သို့ဖြစ်၍ ဤကလေမာတော်ဖြင့် အရှင့်အား တသလျှင်အကျိုး ကုသိုလ်များစွာရသည့် အပြင် အရှင်၏ ဘုန်းတေဇာများကိုပါသိရှိလာနိုင်ပေသည်။

## မေးခွန်းများ

၁။ စတုတ္ထ ကလေမာ၏ အကျိုးကျေးဇူးကိုရေးပါ။

၂။ စတုတ္ထ ကလေမာကို အဘယ်ကြောင့် တစ်ပါးတည်းသော ကလေမာဟု အမည်ပေးထားပါသနည်း။

၃။ စတုတ္ထ ကလေမာဖြင့် အရှင့်အား တသလို့ရပါသလား။ အဘယ်ကြောင့်နည်း။

# ကလေမာ ယေရပ်ဓဒကုဖ်ရ်

## ပဉ္စမ ကလေမာ ငြင်းပယ်ခြင်း

## လုံးခြင်းကောက်အဓိပ္ပာယ်

اَللّٰهُمَّ – အိုအလ္လာဟ်အရှင်မြတ်

اِنِّیۡ – မုချကေန်ကျွန်တော်မျိုး / မသည်

اَعُوۡذُبِكَ – ကျွန်တော်မျိုး /မသည် အရှင်မြတ်ထံခိုလှုံပါ၏။

مِنۡ اَنۡ اُشۡرِكَ – တုဖက်နှိုင်းယှဉ်ခြင်းမှ

بِكَ شَيۡـًٔا – မည်သည့်အရာကိုမှ

وَّاَنَا اَعۡلَمُ بِهٖ – ၄င်းကျွန်တော်မျိုး /မသည် သိလျက်နှင့် ပြုလုပ်ခဲ့မိသောအပြစ်များကို

وَاسْتَغْفِرُكَ – ၎င်းအပြစ်များမှ လွတ်ငြိမ်းချမ်းသာခွင့် ရရန်ဆုပန်ပါ၏

لِمَا لَا اَعْلَمُ بِهٖ – ကျွန်တော်မျိုး / မ သည်မသိပဲနှင့် ပြုလုပ်ခဲ့မိသော အပြစ်များကို

تُبْتُ عَنْهُ وَتَبَرَّأْتُ – ၎င်းအပြစ်များမှ တောင်ဗာဟ်ပြု အမှားဝန်ခံပါ၏။

مِنَ الْكُفْرِ – ငြင်းပယ်ခြင်းမှ

وَالشِّرْكِ – တုဖက်နှိုင်းယှဉ်ခြင်းမှ

وَالْغِيْبَتِ – အတင်းပြောခြင်းမှ

وَالْبُهْتَانِ – မတရားစွပ်စွဲ ပြောဆိုခြင်းမှ

وَالْمَعَاصِىْ كُلِّهَا – ၎င်းအမိန့်ဖီဆန်ခြင်းဖြစ်သော အကုသိုလ်အပေါင်းမှ စက်ဆုပ်ရွံရှာစွာ စွန့်ပယ်ပါ၏။

اَسْلَمْتُ وَاٰمَنْتُ – ကျွန်တော်မျိုး / မသည် အီမာန်နှင့် သာသနာကို သက်ဝင်ယုံကြည်ပါ၏။

وَاَقُوْلُ – ၎င်းနောက် မြွက်ဟဝန်ခံပါ၏။

لَآ اِلٰهَ – မည်သူမှ ခဝပ်ကိုးကွယ်ခြင်းခံထိုက်သူမရှိ။

اِلَّا اللّٰهُ – အလ္လာဟ်အရှင်မြတ်မှ တစ်ပါး

مُحَمَّدٌ – မိုဟမ္မဒ် (စွ) သခင်သည်

رَّسُوْلُ اللّٰهِ – အလ္လာဟ်အရှင်မြတ်၏ စေလွှတ်တော်မူသော ရစူလ်တမန်တော်ဖြစ်တော်မူသည်။

## စကားပြေအဓိပ္ပာယ်

အို ..... အလ္လာဟ်အရှင်မြတ် – ကျွန်တော်မျိုး / မသည် ရှိုင်တန်မာရ်နတ်၏ နှောင့်ယှက်မှုမှ ကင်းဝေးရန် ဆုပန်ပါ၏။ အရှင်မြတ်နှင့် တုဖက်နှိုင်းယှဉ်ရန် မည်သည့် အရာမှ

မရှိ။ ကျွန်တော်မျိုး / မသည် သိလျက်နှင့် ပြုလုပ်မိခဲ့သော အပြစ်များကို လွတ်ငြိမ်းချမ်းသာခွင့်ရရန် ဆုပန်ပါ၏။ မသိပဲနှင့် ပြုလုပ်ခဲ့မိသော အပြစ်များကို တောင်ဗါဟ်ပြုအမှားဝန်ခံပါ၏။ ငြင်းပယ်ခြင်း၊ တုဖက်နိူင်းယှဉ်ခြင်း၊ အတင်းပြောခြင်း၊ ဂုံချောခြင်း၊ မတရားစွပ်စွဲပြောဆိုခြင်း၊ အမိန့်ဖီဆန်ခြင်းဖြစ်သော အကုသိုလ်အပေါင်းမှ စက်ဆုတ်ရွံရှာစွာ စွန့်ပယ်ပါ၏။ ကျွန်တော်မျိုး/မသည် အီမာန်နှင့် သာသနာတော်ကို သက်ဝင်ယုံကြည်ပါ၏။ ၄င်းပြင်မြွက်ဟဝန်ခံပါ၏။ အလ္လာအရှင်မြတ်မှ တစ်ပါး အခြား ခဝပ်ကိုးကွယ်ရာ အရှင်မရှိ မိုဟမ္မဒ် သခင်(စွ) သည် အလ္လာဟ်အရှင်မြတ်၏ စေလွှတ်တော်မူသော ရစူလ်တမန်တော် ဖြစ်တော်မူသည်။

## ပဉ္စမ ကလေမာ သံပေါက်

ပဉ္စ ကလေမာဘွဲ့မည်မှာ ရပ်ဒေကုဖ်ရ်ပါ၊
အရှင်ငြင်းဆန်ပယ်ရှားပြန် အမှန်မိပ္ပါယ်လာ၊
သိလျက်တုပကြမ္မမှ ကင်းဝေးစေရန်သာ၊
မြတ်ရှင်အထံ ဆည်းကပ်ရန် ဆုပန်ချွေရပါ၊
မသိမိုက်မှား ပြစ်မှုများ သနားခွင့်လွှတ်ပါ၊
သံဝေဂတရား ကျွန့်အမှား ဆပွားများနောင်တာ၊
ငြင်းဆန်ထုတ် လိမ်လည်ကြ ပြောပနောက်ကွယ်ရာ၊
စွပ်စွဲမတရား ဒုစရိုက်များ များလှအကျွန့်မှာ၊
နောင်ကသံဝေရမိပေ နောင်လေ ရှောင်ကြဉ်ကာ၊
အစ္စလာမ်လက်ခံယုံကြည်မှန် ဝန်ခံပြောခဲ့ပါ၊
အတုသစဉ် အလ္လာဟ်အရှင် ထင်ထင်တစ်ပါးသာ၊
အရှင်မှ တစ်ပါး ခဝပ်တွား အခြားမရှိပါ၊
မိုဟမ္မဒ် သခင် ရစူလ်ရှင် အရှင့်အစေပါ၊
ကိုယ်တော်သာလျှင် တမန်စင် ထင်ထင်ဝန်ခံရာ၊
ကျွန့်ပ်တို့အမှား ဝန်ခံထား မနားထပ်ထပ်ခါ။

## ပဉ္စမ ကလေမာ ရှင်းချက်

ဤကလေမာကို များစွာ နေ့စဉ်နှင့်အမျှ ရွတ်ဖတ်ပေးခြင်းအားဖြင့် အကျိုးစဝါးဗ်များပြားစွာ ရရှိပေမည်။ အဘယ်ကြောင့်ဆိုသော် ဤကလေမာတွင် ပါဝင်သော အကြောင်းတရားများသည် လူသားအနေဖြင့် အမေ့အမှားမှ လွတ်ငြိမ်းချမ်းသာခွင့် တောင်းခံခြင်း၊ သိသည် ဖြစ်စေ၊ မသိသည်ဖြစ်စေ၊ ပြုမိခဲ့သော အပြစ်များမှ လွတ်ငြိမ်းချမ်းသာခွင့် တောင့်းခြင်းစသည်တို့ပါဝင်ခြင်းကြောင့်ဖြစ်၏။

ထို့ပြင် ဤကလေမာတွင် ကုဖ်ရ်နှင့်ပတ်သက်သော အကြောင်းလည်းရှိ၏။ ၎င်းကုဖ်ရ်မှာ ရှောင်ရှားနိုင်ရန် အရှင့်ထံ အသနားခံ တောင်းခံထားကြောင်း အစကနဦးကတည်းက လာနေသည်ကို သိသာပေသည်။ တစ်ဦးကို တစ်ဦး မနာလို၍ စွပ်စွဲမိခြင်း၊ အတင်းပြောခြင်းစသည့် မကောင်းမှုများမှ ရှောင်ရှားနိုင်ရန် အရှင့်ထံ တောင်းခံခြင်း၊ အထူးသဖြင့် ကုဖ်ရ်နှင့် ရှစ်ရ်က်မှ ကင်းဝေးစေရန် ရည်ရွယ်ပါသည်။ ထို့ကြောင့် ဤကလေမာကို ငြင်းပယ်သည့် ကလေမာဟု အမည်တွင်စေလေသည်။ စွလားသ်ဝတ်ပြုပြီး တိုင်း ဒိုအာတောင်းခံပေးပါက ၊ အကုသိုလ်များ ပလပ်နိုင်ပေသည်။

## မေးခွန်းများ

၁။ ပဉ္စမ ကလေမာ အကျိုးရှိပုံကို ရေးပြပါ။

၂။ ပဉ္စမ ကလေမာကို ငြင်းပယ်ခြင်း ကလေမာဟု ခေါ်ရခြင်းအကြောင်းရှင်းပြပါ။

၃။ ပဉ္စမ ကလေမာကို အခြားမည်သို့သော အမည်ပေးနိုင်ပါသနည်း။

# ဝှီမာနေအီမား နေမိုဂျမလ်

# သက်ဝင်ယုံကြည်ခြင်းအကျဉ်း

## လုံးချင်းကောက်အဓိပ္ပာယ်

اٰمَنْتُ – ကျွန်တော်မျိုး / မသည် သက်ဝင်ယုံကြည်ပါ၏။

بِاللّٰهِ – အလ္လာဟ်အရှင်မြတ်ကို သော်လည်းကောင်း၊

كَمَا هُوَ بِاَسْمَآئِهٖ – အလ္လာဟ်အရှင်မြတ်သည် မိမိ၏ နာမတော်အပေါင်းနှင့် ပြည့်စုံတော်မူသည့်အတိုင်း

وَصِفَاتِهٖ – ဂုဏ်တော်အပေါင်းကိုသော်လည်းကောင်း၊

وَقَبِلْتُ – ၎င်းပြင် လက်ခံယုံကြည်ပါ၏။

جَمِيْعَ اَحْكَامِهٖ وَاَرْكَانِهٖ – အလ္လာဟ်အရှင်မြတ်၏ အတွင်း / အပြင်အမိန့် ပညတ်ချက်အားလုံးကို နာခံပါမည်။

F-6-B

## စကားပြေအစီအစဉ်

အလ္လာဟ်အရှင်မြတ်သည် မိမိ၏ နာမတော်အပေါင်း ဂုဏ်တော်အပေါင်းနှင့် ပြည့်စုံတော်မူကြောင်း ကျွန်တော်မျိုး / မ သည် သက်ဝင်ယုံကြည်ပါသည်။ ၎င်းနောက် အရှင်မြတ်၏ အတွင်းအပြင် အမိန့်ပညာတ်ချက်အားလုံးကို နာခံပါသည်။

## သက်ဝင်ယုံကြည်ခြင်းအကျဉ်းသံပေါက်

| | | |
|---|---|---|
| အကျဉ်းယုံစွာ | ခံယူရာ | မှတ်ပါမှတ်ဂျမလ်၊ |
| အစီပွါယ်ပြည့်ဝ | ပိုက်ပါဒ | တိကျစွဲယူပါ။ |
| အနန္တဂုဏ် | ဉာဏ်တော်ဂုဏ် | ပြည်စုံအရှင်သာ |
| ဂုဏ်တော်နာမ | ဝိသေသ | မူလအရသာ၊ |
| ယှဉ်တွဲ၍သာ | တက်သဒ္ဒါ | တည်စွာယုံကြည်ပါ။ |
| ယုံကြည်ရိုကျိုး | ကျွန်တော်မျိုး | ခိုကိုးအလ္လာဟ်သာ၊ |

## အီမာန်အကျဉ်းလင်္ကာ

| | |
|---|---|
| တစ်ပါးအလ္လာဟ်သန့်ရှင်းစွာ | ထာဝစဉ်သာရှိပါတယ်၊ |
| မြတ်သည့်နာမဂုဏ်အင်္ဂါ | ရှင်အလ္လာဟ်၌ပြည့်စုံတယ်၊ |
| အလ္လာဟ်ပညတ်ခမ္မသတ် | ကျေနပ်နှစ်သိမ့်လှပါတယ်၊ |
| အကျဉ်းရှန်းရှန် အခြေခံ | မြဲမြဲစွဲစွဲယုံပါတယ်၊ |

(စွဲတယ်၊ မြဲတယ်၊ ဒိုးစွဲတယ်)။ ။

## စွိဖာတေအီမားနေမိုဂျမလ်ရှင်းချက်

ဤကလေမာပါ အကြောင်းအရာတို့သည် အလ္လာဟ်အပေါ်တွင်သာ သက်ဝင်ယုံကြည်ရမည်။ ထိုအရှင်ကိုသာမက၊ ထိုအရှင်တွင်ရှိသော ဂုဏ်တော်များကိုပါယုံကြည်ရမည်။ ထိုအရှင်ကိုသက်ဝင်ယုံကြည်ပြီးသည့်နောက် ထိုအရှင်၏ အမိန့်ကိုသာနာခံရမည်။ ထိုအရှင်မြတ်၏ အမိန့်များကလွဲ၍ မည်သည့် အဖန်ဆင်းခံ၏ အမိန့်ကိုမှနာခံစရာမလိုကြောင်း၊ နာခံရာတွင်လည်း စိတ်ထဲမှသာ မဟုတ်ဘဲ၊ စိတ်ကလက်ခံသောအသိကို ခန္ဓာကိုယ်ကပါ နာခံကြောင်း သက်သေထူပြရပါသည်။ ထို့ကြောင့် ဤကလေမာကို အမိန့်နာခံခြင်းဟု အမည်ပေးနိုင်လေသည်။ ဤကလေမာကိုလည်း အခိဋ္ဌာန်ပြုခြင်း ကလေမာဟု ဆိုနိုင်ပေသည်။

### မေးခွန်းများ

(၁) အရှင်အား မည်သို့သက်ဝင်ယုံကြည်ရမည်နည်း။
(၂) အရှင်၏ အမိန့်ကို မည်သို့ နာခံရမည်နည်း။
(၃) ဤကလေမာ၏ ဒုတိယအမည်နှင့် အခိဋ္ဌာန်ပြုခြင်း ကလေမာဟုခေါ်တွင်လို့ရပါသလား။

# စွဲဖာတေအီမား နေမိုဖစွလ်
# သက်ဝင်ယုံကြည်ခြင်းအကျယ်

## လုံးချင်းကောက်အဓိပ္ပာယ်

| | |
|---|---|
| اٰمَنْتُ | – ကျွန်တော်မျိုး / မသည် သက်ဝင်ယုံကြည်ပါသည်။ |
| بِاللّٰهِ | – အလ္လာဟ်အရှင်မြတ်ကိုသော်လည်းကောင်း၊ |
| وَمَلٰٓئِكَتِهٖ | – ကောင်းကင်တမန်များကိုသော်လည်းကောင်း၊ |
| وَكُتُبِهٖ | – ၎င်းအလ္လာဟ်အရှင်မြတ်၏ ကျမ်းများကို သော်လည်းကောင်း |
| وَرُسُلِهٖ | – ၎င်းအရှင်မြတ်၏နဗီတမန်တော်အပေါင်းကို သော်လည်းကောင်း |
| وَالْيَوْمِ الْاٰخِرِ | – ကေယာမတ်အစား ပေးမည့်နေ့ကို သော်လည်းကောင်း |
| وَالْقَدْرِ | – ၎င်းနဖူးစာသည် |
| خَيْرِهٖ وَشَرِّهٖ | – ကောင်းမှု မကောင်းမှုဟူသရွေ့သည်၊ |
| مِنَ اللّٰهِ تَعَالٰى | – အလ္လာဟ်အရှင်မြတ်ဖက်တော်မှ ဖြစ်ပေါ်လာသည်ကိုသော်လည်းကောင်း၊ |
| وَالْبَعْثِ بَعْدَ الْمَوْتِ | – သေဆုံးကွယ်လွန်ပြီးနောက် ပြန်လည်ရှင်ထရမည်ကိုလည်းကောင်း၊ သက်ဝင်ယုံကြည်ပါ၏။ |

## စကားပြေအဓိပ္ပာယ်

ကျွန်တော်မျိုး / မသည် အလ္လာဟ်အရှင်မြတ်ကိုသော်လည်းကောင်း၊ အရှင်မြတ်၏ မလာအေကာ ကောင်းကင်တမန်များကို သော်လည်းကောင်း၊ အရှင်မြတ်၏ ကျမ်းစာများကိုလည်းကောင်း၊ အရှင်မြတ်၏ နဗီတမန်တော်များကိုလည်းကောင်း၊ ကေယာမတ်နောက်ဆုံးနေ့ကိုလည်းကောင်း၊ ဖြစ်ပျက်စရာအကောင်းအဆိုးဟူသရွေ့ကို အလ္လာဟ်အရှင်မြတ်က သတ်မှတ်စီမံတော်မူကြောင်းကိုလည်းကောင်း၊ သေဆုံးကွယ်လွယ်ပြီးနောက် ပြန်လည်ရှင်ပြန်ထရမည်ကိုလည်းကောင်း သက်ဝင်ယုံကြည်ပါသည်။

## သက်ဝင်ယုံကြည်ခြင်းအကျယ်သံပေါက်

ကျယ်ယုံစွာ ခံယူရာ မှတ်ပါမိုဖတ်စွလ်၊
စွဲယုံကြည်ရန် ခုနစ်တန် သိရန်မှချပါ၊
အလ္လာဟ်တစ်ပါး ရှိတရား စွဲထားယုံကြည်ပါ၊
စေတမန်များ ဖန်ဆင်းထား မမှားယုံကြည်ပါ၊
စေလွှတ်သနားရစူလ်များ မမှားယုံကြည်ပါ၊
နောက်ဆုံးနေ့ရက်ကမ္ဘာပျက် စွဲလျက်ယုံကြည်ပါ၊
အလ္လာဟ်စီမံကောင်းဆိုးမှန် စွဲသန်ယုံကြည်ပါ၊
သေပြီးနောက်မှ ရှင်ပြန်ရ ကျနယုံကြည်ပါ၊
ယုံကြည်ရိုကျိုးကျွန်တော်မျိုး ခိုကိုးအလ္လာဟ်သာ။

## အီမာန်အကျယ်လင်္ကာ

| | | |
|---|---|---|
| ယုံကြည်စွဲရန် | ခုနစ်တန် | သိရန်ထိုက်လှပါ၊ |
| အလ္လာဟ်တစ်ပါး | တည်ရှိကြား | စွဲထားယုံကြည်ရန်၊ |
| စေတမန်များ | ရှိသည်ကား | စွဲထားယုံကြည်ရန်၊ |
| ချပေးလေရာ | ကျမ်းဂန်ပါ | စွဲကာယုံကြည်ရန်၊ |
| အလ္လာဟ်စီမံ | စေလွှတ်ပြန် | တမန်များကိုယုံကြည်ရန်၊ |
| ကမ္ဘာ့ပျက်ပြုန်း | နေ့နောက်ဆုံး | လုံးလုံးယုံကြည်ရန်၊ |
| ကောင်းဆိုးနှစ်ဝ | အလ္လာဟ်က | ခွဲပြစီမံ ယုံကြည်ရန်၊ |
| သေပြီးတဖန် | ရှင်ထပြန် | အမှန်ယုံကြည်ရန်။ |

## ကျင့်ဝတ်ငါးဖြာလင်္ကာ

ကျင့်ဝတ်ငါးဖြာဆိုကာပြတော့ – မွတ်စ်လင်မ်အများမှတ်သားကွယ်
အီမာန်ဆိုတာ ကလေမာဖတ်လို့ – အဓိပ္ပါယ်ရှသိရမယ်၊
နမာဇ်ငါးကြိမ်ဝတ်မပျက်နဲ့ – ဗလိသွားလို့ ဖတ်စို့ကွယ်၊
လမြတ်ရမ်ဇန်ရိုဇာဟ်စောင့်လို့ – ဥပုဒ်သီလစောင့်တည်ကွယ်၊
တစ်ရာပြည့်လျှင်နှစ်ကျပ်ခွဲတော့ – ဇကာ့သ်ပဲလို့မှတ်သားကွယ်၊
ပစ္စည်းဥစ္စာပိုလျှံတော့မှ – မက္ကာသွားလို့ ဟဂျ်ပြုကွယ်၊
သွားကွယ် – – သွားကြမယ်။ ။

## စွဲဖာတေအီမာနေမို့ဖစွလ်ရှင်းချက်

ဤကလေမာသည် အလ္လာဟ်အရှင်ရှိကြောင်း ယုံကြည်မှုထားသလို အရှင်မြတ်က သတ်မှတ်စီမံထားသော အချက်ကြီးများကိုလည်း ယုံကြည်ရမည်ကို ရည်ရွယ်ထားပါသည်။

ထိုအဓိကအချက်ကြီးများမှာ–

(၁) မလာအေကာကောင်းကင်တမန်များအလ္လာဟ်အရှင်က ဖန်ဆင်းထားကြောင်း။

(၂) ကျမ်းစာအုပ်များ အရှင်မြတ်က ပို့ချပေးထားကြောင်း။

(၃) နဗီ (ရစူလ်) တမန်တော်များ စေလွှတ်တော်မူကြောင်း။

(၄) တစ်နေ့ကမ္ဘာကြီး ပျက်စီးသွားပြီး ကေယာမဒ်ဖြစ်မည်ကို သော်လည်းကောင်း။

(၅) နဖူးစာနှင့် ပတ်သက်သော အကောင်း၊ မကောင်းတို့သည် ထိုအရှင်ဖက်မှ ဖြစ်ပေါ်သည် ကိုလည်းကောင်း၊

(၆) သေဆုံးကွယ်လွန်ပြီးနောက် တစ်နေ့ပြန်လည် ရှင်ထလာရမည်ကို လည်းကောင်း၊ ဖေါ်ပြပါ အချက်များပါဝင်သောကြောင့် ဤကလေမာကို ကတိသစ္စာဟူသော ကလေမာဟု ခေါ် ဆိုနိုင်ပေသည်။

### မေးခွန်းများ

၁။ ဤကလေမာ၏ ရည်ရွယ်ချက်ကို ဖေါ်ပြပါ။

၂။ အခြားယုံကြည်ရမည့် အချက်ကြီးများကို ဖေါ်ပြပါ။

၃။ ဤကလေမာကို မည်သို့ ခေါ် ဆိုနိုင်ပါသနည်း။

# မတ်စနုးန်ဒိုအာများအကြောင်း သိမှတ်စရာ

ဖော်ပြမည့် ဒိုအာအတိုအထွာလေးများသည် သာမန်အားဖြင့် ကြည့်လျှင်ဘာမျှ မပြောပလောက်ပေ။ သို့သော်လည်း ၎င်းဒိုအာများကို သူ့အချိန်အခါ သူ့နေရာအလိုက် အစဉ်အမြဲ ပြုကျင့်ရွတ်ဖတ်ပေးခြင်းအားဖြင့် များစွာသောအကျိုးထူးသည်ကို လက်တွေ့သော်လည်းကောင်း၊ တွေ့ရှိသိရပါမည်။ အကြောင်းသော်ကား ဤဖော်ပြမည့် ဒိုအာများသည် ကျွန်ုပ်တို့ လက်ခံယုံကြည်ထားသော နောက်ဆုံးပွင့်တမန်တော် မိုဟမ္မဒ် (စွ) ၏ ကျင့်စဉ်ကျင့်ရပ်များပင်ဖြစ်၏။

ဤဒိုအာများကို သတိပြုကျင့်သုံးရွတ်ဖတ်ပေးခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်ဖက်မှ ဗရ်ကသ်၊ ရဟ်မသ်များ ချပေးသနားတော်မူပေမည်။

ယနေ့ကျွန်ုပ်တို့အများ စုကထင်မှတ်နေကြသည်မှာ စွလားသ် (နမာဇ်) ဝတ်တက်ပြီးတိုင်း လိုအင်ဆန္ဒအဝဝကို တောင်းခံလိုက်လျှင် ကျန်ကိစ္စအားလုံး အဆင်ပြေသွားလိမ့်မည်ဟု ထင်မှတ်ကြ၏။ အမှန်အားဖြင့် ယခုဖော်ပြမည့် ဒိုအာများကိုလည်း သူ့အချိန် / နေရာမရွေး ရွတ်ဖတ်ပေးပါက၊ ကျွန်ုပ်တို့ စွလားသ် (နမာဇ်) ဝတ်တက်ပြီး၊ တောင်းခဲ့သောဒိုအာများကို များစွာ အထောက်အကူပြု၏။ ဆိုလိုသည်မှာ မိမိလိုအင်ဆန္ဒသည် အရှင့်အလိုတော်ဖြင့် အမြန်နည်းနှင့် ရယူနိုင်လေသည်။

အကယ်၍ စွလားသ် (နမာဇ်) ဝတ်တက်ပြီး ဒိုအာရှည်လျားစွာ တောင်းခံရုံဖြင့် လုံလောက်လျှင် ယခုဖော်ပြမည့် မတ်စနုးန်ဒိုအာများကို ဖတ်ရန် ကိုယ်တော်မြတ် (စွ) က တိုက်တွန်းနှိုးဆော်မည် မဟုတ်ပေ။

## မေးခွန်းများ

၁။ တိုတောင်းသော ဒိုအာများ၏ အကျိုးကျေးဇူးကိုဖော်ပြပါ။

၂။ စွလားသ် (နမာဇ်) ဖတ်ပြီး ဒိုအာတောင်းရုံနှင့် ဆန္ဒကိုပြည့်ဝစေပါသလား၊ ရှင်းပြပါ။

၃။ မစ်နူး ဒိုအာဖတ်ရန် ကိုယ်တော်မြတ် (စွ) က အမိန့်ရှိထားပါသလား။

## ဒိုအာအေမတ်စနုးန်

(၁) ထမင်းစားသောအခါ ဖတ်ရန်ဒိုအာ။

بِسْمِ اللّٰهِ وَعَلٰى بَرَكَةِ اللّٰهِ

(၂) အထက်ဒိုအာကို မေ့၍ စားသောက်မိသောအခါ ဖတ်ရန်ဒိုအာ။

بِسْمِ اللّٰهِ اَوَّلَهٗ وَاٰخِرَهٗ

(၃) ထမင်းစားနေရင်းဖတ်ရန် ဒိုအာ။

اَللّٰهُمَّ لَكَ الْحَمْدُ وَلَكَ الشُّكْرُ

(၄) ထမင်းစားပြီးသွားသောအခါ ဖတ်ရန်ဒိုအာ။

اَلْحَمْدُ لِلّٰهِ الَّذِىْ اَطْعَمَنَا وَسَقَانَا وَجَعَلَنَا مِنَ الْمُسْلِمِيْنَ

(၅) တစ်ဦးတစ်ယောက်က ဖိတ်ခေါ်ကျွေးမွေးသောအခါ ဖတ်ရန် ဒိုအာ။
(တစ်ဦးတည်းအတွက်)

اَللّٰهُمَّ اَطْعِمْ مَنْ اَطْعَمَنِىْ وَاسْقِ مَنْ سَقَانِىْ

(အများ)

اَللّٰهُمَّ اَطْعِمْ مَنْ اَطْعَمَنَا وَاسْقِ مَنْ سَقَانَا

(၆) ရေသောက်သောအခါ ဖတ်ရန် ဒိုအာ။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

(၇) ရေသောက်ပြီးသောအခါ ဖတ်ရန် ဒိုအာ။

اَلْحَمْدُ لِلّٰهِ

(၈) အိပ်ယာ ဝင်သောအခါဖတ်ရန် ဒိုအာ။

اَللّٰهُمَّ بِاسْمِكَ اَمُوْتُ وَاَحْيٰى

(၉) အိပ်ရာမှ ထသောအခါဖတ်ရန် ဒိုအာ။

اَلْحَمْدُ لِلّٰهِ الَّذِىْ اَحْيَانَا بَعْدَمَا اَمَاتَنَا وَاِلَيْهِ النُّشُوْرُ

(၁၀) အိပ်မက်ဆိုးမက်သောအခါဖတ်ရန် ဒိုအာ။

اَعُوْذُ بِاللّٰهِ مِنَ الشَّيْطَانِ الرَّجِيْمِ وَمِنْ شَرِّ هٰذِهِ الرُّؤْيَا

(၁၁) အိမ်သာ တက်သောအခါဖတ်ရန် ဒိုအာ။

بِسْمِ اللّٰهِ اَللّٰهُمَّ اِنِّىْ اَعُوْذُبِكَ مِنَ الْخُبُثِ وَالْخَبَائِثِ

(၁၂) အိမ်သာမှ ဆင်းသောအခါဖတ်ရန် ဒိုအာ။

غُفْرَانَكَ اَللّٰهُمَّ اَلْحَمْدُ لِلّٰهِ الَّذِىْ اَذْهَبَ عَنِّىْ
الْاَذٰى وَعَافَانِىْ

(၁၃) ဝူဇူအစ ပြုသောအခါဖတ်ရန် ဒိုအာ။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ، بِسْمِ اللّٰهِ الْعَظِيْمِ
اَلْحَمْدُ لِلّٰهِ عَلٰى دِيْنِ الْاِسْلَامِ

(၁၄) ဝူဇူပြုနေရင်း ဖတ်ရန် ဒိုအာ။

اَللّٰهُمَّ اغْفِرْلِىْ ذَنْبِىْ وَوَسِّعْ لِىْ فِىْ دَارِىْ وَبَارِكْ لِىْ فِىْ رِزْقِىْ

(၁၅) ဝူဇူပြုပြီး သောအခါဖတ်ရန် ဒိုအာ။

أَشْهَدُ أَنْ لَا إِلٰهَ إِلَّا اللّٰهُ وَحْدَهُ لَا شَرِيكَ لَهُ وَأَشْهَدُ أَنَّ مُحَمَّدًا عَبْدُهُ وَرَسُولُهُ - اَللّٰهُمَّ اجْعَلْنِي مِنَ التَّوَّابِينَ وَاجْعَلْنِي مِنَ الْمُتَطَهِّرِينَ

(၁၆) ဗလီသို့ဝင် သောအခါဖတ်ရန် ဒိုအာ။

اَللّٰهُمَّ افْتَحْ لِي أَبْوَابَ رَحْمَتِكَ

(၁၇) ဗလီမှထွက် သောအခါဖတ်ရန် ဒိုအာ။

اَللّٰهُمَّ إِنِّي أَسْأَلُكَ مِنْ فَضْلِكَ

(၁၈) ဖဂျရ်နှင့် မဂ်ရိဗ်နမာဇ်ဖတ်ပြီး သောအခါဖတ်ရန် ဒိုအာ။

اَللّٰهُمَّ أَجِرْنِي مِنَ النَّارِ

(၁၉) အိမ်မှထွက် သောအခါဖတ်ရန် ဒိုအာ။

بِسْمِ اللّٰهِ تَوَكَّلْتُ عَلَى اللّٰهِ لَا حَوْلَ وَلَا قُوَّةَ إِلَّا بِاللّٰهِ

(၂၀) အိမ်သို့ဝင်သောအခါဖတ်ရန် ဒိုအာ။

اَللّٰهُمَّ إِنِّي أَسْأَلُكَ خَيْرَ الْمَوْلِجِ وَخَيْرَ الْمَخْرَجِ بِسْمِ اللّٰهِ وَلَجْنَا وَعَلَى اللّٰهِ رَبِّنَا تَوَكَّلْنَا

(၂၁) ဈေးသို့ ဝင်သောအခါ ဖတ်ရန် ဒိုအာ။

لَا إِلٰهَ إِلَّا اللّٰهُ وَحْدَهُ لَا شَرِيكَ لَهُ لَهُ الْمُلْكُ وَلَهُ الْحَمْدُ يُحْيِي وَيُمِيتُ وَهُوَ حَيٌّ لَا يَمُوتُ بِيَدِهِ الْخَيْرُ وَهُوَ عَلَى كُلِّ شَيْءٍ قَدِيرٌ

(၂၂) "ရိုဇာဟ်" ဝါပြေသောအခါဖတ်ရန် ဒိုအာ။

اَللّٰهُمَّ لَكَ صُمْتُ وَبِكَ اٰمَنْتُ وَعَلٰى رِزْقِكَ اَفْطَرْتُ

(၂၃) တစ်ဦးတစ်ယောက်ထံတွင် "ရိုဇာဟ်" ဝါပြေသောအခါဖတ်ရန် ဒိုအာ။

اَفْطَرَ عِنْدَكُمُ الصَّائِمُوْنَ وَاَكَلَ طَعَامَكُمُ الْاَبْرَارُ
وَصَلَّتْ عَلَيْكُمُ الْمَلٰئِكَةُ ط

(၂၄) အဝတ်အစားဝတ် သောအခါဖတ်ရန် ဒိုအာ။

اَلْحَمْدُ لِلّٰهِ الَّذِيْ كَسَانِيْ هٰذَا وَرَزَقَنِيْهِ مِنْ غَيْرِ حَوْلٍ مِّنِّيْ وَلَا قُوَّةَ

(၂၅) ဇနီးမောင်နှံကိုယ်လက်နှီးနှော သောအခါဖတ်ရန် ဒိုအာ။

بِسْمِ اللّٰهِ اَللّٰهُمَّ جَنِّبْنَا الشَّيْطٰنَ وَجَنِّبِ الشَّيْطٰنَ مَا رَزَقْتَنَا فِيْهِ

(၂၆) ဒေါသထွက်သောအခါ ခွေးဟောင်သံကြားသော အခါ ဖတ်ရန် ဒိုအာ။

اَعُوْذُ بِاللّٰهِ مِنَ الشَّيْطَانِ الرَّجِيْمِ ط

(၂၇) ပြုံးရွှင်သော မွတ်စလင်မ်တစ်ဦးတစ်ယောက်ကို တွေ့သောအခါဖတ်ရန် ဒိုအာ။

اَضْحَكَ اللّٰهُ سِنَّكَ

(၂၈) သင်္ချိုင်းသို့ဝင် သောအခါဖတ်ရန် ဒိုအာ။

اَلسَّلَامُ عَلَيْكُمْ يَا اَهْلَ الْقُبُوْرِ يَغْفِرُ اللّٰهُ لَنَا وَلَكُمْ

(၂၉) ပစ္စည်းပျောက်၊ ဘေးဒုက္ခနှင့် တစ်ဦးတစ်ယောက်ကွယ်လွန်သောအခါဖတ်ရန် ဒိုအာ။

اِنَّا لِلّٰهِ وَاِنَّا اِلَيْهِ رَاجِعُوْنَ ط

(၃၀) လူမမာသွားရောက်မေး သောအခါဖတ်ရန် ဒိုအာ။

لَا بَاْسَ طَهُوْرٌ اِنْ شَاءَ اللّٰهُ

(၃၁) မီးလောင် သောအခါဖတ်ရန် ဒိုအာ။

اَللّٰهُ اَكْبَرُ

(၃၂) မှန်ကြည့် သောအခါဖတ်ရန် ဒိုအာ။

اَللّٰهُمَّ اَنْتَ حَسَّنْتَ خَلْقِيْ فَحَسِّنْ خُلُقِيْ

(၃၃) တစ်ဦးတစ်ယောက်က စလာမ်ပေးပို့ သောအခါစလာမ်ပြန်ရန် ဒိုအာ။

عَلَيْكَ وَعَلَيْهِ السَّلَامُ

(၃၄) မိမိအား ကျေးဇူးပြုသူအတွက် ဖတ်ရန် ဒိုအာ။

جَزَاكَ اللّٰهُ ، جَزَاكُمُ اللّٰهُ فِي الدَّارَيْنِ

(၃၅) စိတ်ဆင်းရဲသည့်ကိစ္စများတွေ့ သောအခါဖတ်ရန် ဒိုအာ။

اَلْحَمْدُ لِلّٰهِ عَلٰى كُلِّ حَالٍ

(၃၆) ကဒရ်ညဥ့်၌ဖတ်ရန် ဒိုအာ။

اَللّٰهُمَّ اِنَّكَ عَفُوٌّ تُحِبُّ الْعَفْوَ فَاعْفُ عَنِّيْ

(၃၇) အာဇာန်သံကြား သောအခါဖတ်ရန် ဒိုအာ။

اَشْهَدُ اَنْ لَّا اِلٰهَ اِلَّا اللّٰهُ وَحْدَهٗ لَا شَرِيْكَ لَهٗ وَاَشْهَدُ اَنَّ مُحَمَّدًا
عَبْدُهٗ وَرَسُوْلُهٗ رَضِيْتُ بِاللّٰهِ رَبًّا وَّ بِمُحَمَّدٍ رَّسُوْلًا وَّبِالْاِسْلَامِ دِيْنًا

(၃၈) အာဇာန်ဆိုပြီးသောအခါဖတ်ရန် ဒိုအာ။

اَللّٰهُمَّ رَبَّ هٰذِهِ الدَّعْوَةِ التَّامَّةِ وَالصَّلٰوةِ الْقَائِمَةِ اٰتِ مُحَمَّدَ
نِ الْوَسِيْلَةَ وَالْفَضِيْلَةَ وَابْعَثْهُ مَقَامًا مَّحْمُوْدَ نِ الَّذِيْ وَعَدْتَّهٗ
اِنَّكَ لَا تُخْلِفُ الْمِيْعَادَ

(၃၉) နမာဇ်ဝတ်ပြုပြီး သောအခါဖတ်ရန် ဒိုအာ။

بِسْمِ اللّٰهِ الَّذِىْ لَآ اِلٰهَ اِلَّا هُوَ الرَّحْمٰنُ الرَّحِيْمُ ط
اَللّٰهُمَّ اَذْهِبْ عَنِّى الْهَمَّ وَالْحُزْنَ ط

(၄၀) ထိုင်ဝိုင်းမှ ထသောအခါဖတ်ရန် ဒိုအာ။

سُبْحٰنَكَ اَللّٰهُمَّ وَبِحَمْدِكَ اَشْهَدُ اَنْ لَّآ اِلٰهَ اِلَّآ اَنْتَ
اَسْتَغْفِرُكَ وَاَتُوْبُ اِلَيْكَ

(၄၁) ခရီးထွက်ရန် ရည်ရွယ်သောအခါဖတ်ရန် ဒိုအာ။

اَللّٰهُمَّ اَصُوْلُ وَبِكَ اَحُوْلُ وَبِكَ اَسِيْرُ

(၄၂) မြို့ရွာသို့ဝင်သောအခါဖတ်ရန် ဒိုအာ။

اَللّٰهُمَّ بَارِكْ لَنَا فِيْهَا

(၄၃) အစီးအနင်းစီး သောအခါဖတ်ရန် ဒိုအာ။

سُبْحٰنَ الَّذِىْ سَخَّرَ لَنَا هٰذَا وَمَا كُنَّا لَهٗ مُقْرِنِيْنَ وَاِنَّا
اِلٰى رَبِّنَا لَمُنْقَلِبُوْنَ

(၄၄) လှေ၊ သင်္ဘောစီး သောအခါဖတ်ရန် ဒိုအာ။

بِسْمِ اللّٰهِ مَجْرٖهَا وَمُرْسٰهَا اِنَّ رَبِّىْ لَغَفُوْرٌ رَّحِيْمٌ ط

(၄၅) ဒုက္ခိတ်မြင်ချိန်ဖတ်ရန် ဒိုအာ။

اَلْحَمْدُ لِلّٰهِ الَّذِىْ عَافَانِىْ مِمَّا ابْتَلَاكَ بِهٖ وَفَضَّلَنِىْ
عَلٰى كَثِيْرٍ مِّمَّنْ خَلَقَ تَفْضِيْلًا ط

(၄၆) မိမိကြိုက်နှစ်သက်သောအရာကိုတွေ့သောအခါဖတ်ရန် ဒိုအာ။

اَلْحَمْدُ لِلّٰهِ الَّذِىْ بِنِعْمَتِهٖ تَتِمُّ الصّٰلِحٰتُ ط

(၄၇) နို့သောက်ချိန်ဖတ်ရန် ဒိုအာ။

اَللّٰهُمَّ بَارِكْ لَنَا فِيْهِ وَزِدْنَا مِنْهُ

(၄၈) သန်းလာသောအခါဖတ်ရန် ဒိုအာ။

وَلَا حَوْلَ وَلَا قُوَّةَ اِلَّا بِاللّٰهِ الْعَلِيِّ الْعَظِيْمِ

(၄၉) ဒုက္ခရောက်သောအခါဖတ်ရန် ဒိုအာ။

لَآ اِلٰهَ اِلَّآ اَنْتَ سُبْحٰنَكَ اِنِّيْ كُنْتُ مِنَ الظّٰلِمِيْنَ

(၅၀) သစ်သီးဝလံစား သောအခါဖတ်ရန် ဒိုအာ။

اَللّٰهُمَّ بَارِكْ لَنَا فِيْهَا

# သဂ်ျဝီးဒ်

သဂ်ျဝီးဒ်ပညာသင်ယူဆည်းပူးရန် မွတ်စ်လင်မ်အမျိုးသား၊ အမျိုးသမီးတိုင်းအပေါ် မသင်မနေရသော တာဝန်တစ်ရပ်ဖြစ်သည်။

သဂ်ျဝီးဒ်ပညာဆိုသည်မှာ ကုရ်အာန်ကျမ်းတော်မြတ်၏ အက္ခရာစကားလုံးများကို ဌာန်ကရိုဏ်းကျကျ၊ ပီသတိကျစွာ အသံနေအသံထားဖြင့် ရွတ်ဖတ်ခြင်းကိုခေါ်ဆိုပါသည်။

ကျမ်းမြတ်ကုရ်အာန်၏ အက္ခရာစကားလုံးများကို မှားယွင်းစွာ ဖတ်ခြင်းသည် ကြီးစွာသော အပြစ်ဖြစ်သည့်အပြင်၊ တစ်ချို့စကားလုံးများ ထိုသို့မှားယွင်းစွာ ဖတ်ခြင်းအားဖြင့် ကုဖ်ရ်အဆင့်သို့ပင်ရောက်သွားပေသည်။

ဥပမာ –

اَلْحَمْدُ ကို اَلْهَمْدُ ဟုဖတ်ခြင်း။

## အက္ခရာစာလုံးများ၏ အသံထွက်

အရဗီအက္ခရာစာလုံးများ၏ အသံထွက်နေရာများကို " မခ်ရာဂ်ျ " ဟုခေါ်သည်။

အရဗီအက္ခရာ စာလုံးများ၏ အသံထွက်နေရာကို သိလိုလျှင် ( الف ) အလစ်ဖ်ကို ( ـَـ ) ဇဗရ်ပေး၍ အလစ်ဖ်အရှေ့တွင်ရှိသော စကားလုံးများကို ( ـْـ ) ဂျဇမ်ပေး၍၊ ထိုစာလုံးနှစ်လုံးကိုပေါင်းဖတ်ပေးရပါသည်။

ဥပမာ–

اَغْ اَصْ اَضْ اَخْ اَحْ اَجْ اَثْ اَتْ اَبْ

اَكْ اَقْ اَفْ اَشْ اَسْ اَذْ اَدْ اَزْ اَرْ

اَیْ اَءْ اَهْ اَوْ اَنْ اَمْ اَلْ

## ( صِفَات ) ဇွေဖါသ် ဂုဏ်ပုဒ်အကြောင်း

(ဇွေဖါသ်) ဂုဏ်ပုဒ်ဆိုသည်မှာစာလုံးများ၏ အသံနေအသံထားအမှန်ကို သိရှိခြင်းဖြစ်သည်။

(ဇွေဖါသ်) ကို သိလိုလျှင် အက္ခရာစာလုံးတိုင်း၏ အရှေ့တွင် ( الف ) အလစ်ဖ်နှင့်တွဲပေး၍၎င်းစကားလုံးများရှေ့သို့ ( ـَـ ) ဇဗရ်တပ်ပြီး ဆွဲဆိုပြီး ရွတ်ဖတ်ပေးရ၏။

အက္ခရာစာလုံးတိုင်းဆိုသည်မှာ ( ب ) မှစ၍ ( ی ) အထိကိုဆိုပေသည်။

ဒုတိယနည်းမှာ စာလုံးတိုင်းပေါ်သို့ ( ـــاـــ ) ခရာဇဗရ်တင်ပြီး ဆွဲဆိုရွတ်ဖတ်ပေးရပါသည်။

ဥပမာ– شَا سَا زَا رَا ذَا دَا خَا حَا جَا ثَا تَا بَا

ظٰ طٰ ضٰ صٰ شٰ سٰ زٰ رٰ ذٰ دٰ خٰ حٰ جٰ ثٰ تٰ بٰ

( پُر اور بَاریک ) "ပွရ်နှင့် ဗာရစ်က်"

ပြည့်ဝသောအသံနှင့် ပါးလျှာသောအသံအကြောင်း

**ပွရ်** ။ ပွရ်ဆိုသည်မှာ ( حرف ) "ဟတ်ရ်ဖ်"စာလုံးများ၏ အသံကို ပြည့်ဝအောင် ဖတ်ခြင်းကိုခေါ်ပါသည်၊

ဥပမာ – ظَا طَا ضَا

**ဗာရစ်က်** ။ ဗာရစ်က်ဆိုသည်မှ ( حرف ) "ဟတ်ရ်ဖ်" စာလုံး၏ အသံကိုပါးလျှာသော အသံဖြင့် ဖတ်ခြင်းကို ခေါ်ပါသည်။

ဥပမာ – ثَا تَا يَا ءَا

( حروف مطبقه ) ဟု ရုဖေမွတ်တွဗေကဟ်

အောက်ဖော်ပြပါ စာလုံး (၄) လုံးသည် အခြေအနေတိုင်းတွင် (ပွရ်) ပြည့်ဝစွာ ရွတ်ဖတ်ပေးရမည်။ ထိုသို့ (ပွရ်) ပြည့်ဝစွာ ရွတ်ဖတ်ပေးရသော စာလုံး (၄) လုံးကို ဟုရုဖေမွတ်တွဗေကဟ် ဟု ခေါ်သည်။ ၎င်းစကားလုံးများမှာ–

( ص ض ط ظ ) ဖြစ်၏။ ( ، ق ل ) စာလုံး (၃) လုံးသည် တစ်ခါတစ်ရံ ပွရ်ဖတ်ရပြီး တစ်ခါတစ်ရံ ဗာရစ်က်ဖြင့်လည်း ဖတ်ရပါသည်။

## ( حرف ) "ဟတ်ရ်ဖ်"စာလုံးတိုင်း ( الف )

## အလစ်ဖ်နှင့် ဆွဲဖတ်ရသော အသံနေအသံထားများ

အောက်ဖေါ်ပြပါ ( حرف ) "ဟတ်ရ်ဖ်" စာလုံးများသည် ( الف ) အလစ်ဖ်နှင့် တွဲသည့် အခါတိုင်း (ပွရ်) ပြည့်ဝစွာဖြင့် ရွတ်ဆိုပေးရလေသည်။

အောက်တွင်ဖေါ်ပြသည့် ( حرف ) "ဟတ်ရ်ဖ်"စာလုံးများကို ( الف ) အလစ်ဖ်နှင့်တွဲလာသည့် အခါ (ဇာရစ်က်) ပါးလွှာသောအသံဖြင့် ထုတ်ဖေါ်ရွတ်ဆို ပေးရပါသည်။ ၎င်းတို့မှာ–

ا بَا تَا ثَا جَا حَا خَا دَا ذَا رَا زَا سَا شَا صَا ضَا طَا

ظَا عَا غَا فَا لَا مَا نَا وَا هَا يَا

## ( حروف قلقله ) "ဟုရူဖေကလ်ကလာဟ်" ပဲ့တင်သံအကြောင်း

( حرف ) "ဟတ်ရ်ဖ်" စာလုံးတစ်ခုနှင့် တစ်ခုမပေါင်းစပ်၍ ဖြစ်ပေါ်လာသော အသံကို ပဲ့တင်သံ (သို့) ဟုရူဖေကလ်ကလာဟ်ဟု ခေါ်ပါသည်။

ဟုရူဖေကလ်ကလာဟ် (၅) လုံးရှိပါသည်။

၎င်းတို့မှာ ( ب د ج ط ق ) တို့ဖြစ်ပါသည်။ ၎င်းစာလုံးများသည် မည်သည့် ( حرف ) "ဟတ်ရ်ဖ်" စာလုံးများနှင့် ပေါင်းဖတ်သောအခါ ပဲ့တင်ထပ်သော အသံကိုပြန်၍ပေးပါသည်။

ဥပမာ– اَبْ - اَدْ - اَجْ - اَطْ - اَقْ

## ( احکام نون ساکن اور تنوین )

## အဟ်ကာမေနွန်စာကင်န်နှင့် တန်ဝင်န်အကြောင်း

( نون ساکن ) နွန်စာကင်န်ဆိုသည်မှာ ( نْ ) နွန်အပေါ် ( ـْ ) ဂျဇမ်ဝင်ရောက်ခြင်းကိုခေါ်ပါသည်။

( تنوين ) တန်ဝင်န်ဆိုသည်မှာ ( ـًـٍـٌ ) ဒိုးဇဗရ်၊ ဒိုးဇေ၊ ဒိုးပေရှ်များ ကို ခေါ်ပါသည်။

နွန်စာကင်န်နှင့် တန်ဝင်န်မှာ ပညတ်ချက်လေးမျိုးရှိပါသည်။ ၄င်းတို့မှာ

(၁) اظهار (အစ်ဇ္ဇဟာရ်)

(၂) اخفاء (အစ်ခဖါ)

(၃) اقلاب (အစ်ကလားဗ်)

(၄) ادغام (အစ်ဒဂမ်) စသည်တို့ဖြစ်ပါသည်။

၁။ "အစ်ဇ္ဇာဟာရ်"ဆိုသည်မှာ အရှိကို အရှိအတိုင်း ပွင့်လင်းစွာ ရွတ်ဖတ်ခြင်းကို ခေါ်ပါသည်။

၂။ "အစ်ခဖါ"ဆိုသည်မှာ လျှို့ဝှက်စွာ ရွတ်ဖတ်ခြင်းကို ခေါ်ပါသည်။

၃။ "အစ်ကလာဗ်"ဆိုသည်မှာ " နွန် " အသံဖြင့် ဖတ်ရမည့် အစား " မီးမ် " အသံဖြင့် ပြောင်းဖတ်ခြင်းကို ခေါ်ပါသည်။

၄။ "အစ်ဒဂမ်"ဆိုသည်မှာ ( ي ر م ل و ن ) စာလုံးများနှင့် ပေါင်းဖတ်ရွတ်ဆိုခြင်းကို ခေါ်ပါသည်။

## (ရှင်းလင်းချက်(၁)( اظهار )အစ်ဇ္ဇဟာရ်)

နွန်စာကင်န်နှင့် တန်ဝင်န် (ဆိုလိုသည်မှာ) နှာခေါင်းသံထုတ်ဖတ်ရသော နွန်အသံ၏ အရှေ့တွင် အောက်ဖော်ပြသည့် စာလုံး (၆) လုံးများ ထဲမှ တစ်လုံး (သို့) တစ်လုံးလုံး ရောက်ရှိနေသော် ထိုနှာခေါင်းထုတ်ဖတ်ရသော နွန်နှင့် တန်ဝင်န်ကို နှာခေါင်းသံကြာရှည်စွာမဆွဲဆိုရ။ ၄င်းစကားလုံး (၆) လုံးများမှာ ( ا ح خ ع غ ه ) စသည်တို့ဖြစ်ပါသည်။ ယင်းစကားလုံးများကို ( حروف حلقى ) "ဟူရုဖေဟလ်ကီ" ဟု ခေါ်ပါသည်။

ဖော်ပြပါ နည်းအတိုင်း ဆွဲဖတ်ခြင်းကို ( اظهار غنه ) "အစ်ဇ္ဇဟာရ်ရေဂွန်နာဟ်" ဟုခေါ်ပါသည်။

ဥပမာ– طَيْرًا اَبَابِيْلَ — عَلِيْمًا حَلِيْمًا

(အစ်ဇ္ဇဟာရ်ရေဂွန်နာမ်) (အစ်ဇ္ဇဟာရ်ရေဂွန်နာ)

## (ရှင်းလင်းချက် (၂) ( إخفاء ) အစ်ခဖါ

အစ်ခဖါဆိုသည်မှာ နွန်နှင့် တနွ်ဝင်န်အသံကို လျှို့ဝှက်စွာထုတ်ဖော်ဖတ်ခြင်းကို ခေါ်ပါသည်။

အစ်ခဖါ (၁၅) လုံးရှိပါသည်။ ၄င်းတို့မှာ–

ت ث ج د ذ ز س ش ص ض ط ظ ف ق ك

စသည်တို့ဖြစ်ပါသည်။

ဖော်ပြပါ အက္ခရာစာလုံးများ၏ တစ်လုံးလုံးအရှေ့တွင် နွန်စာကင်န်နှင့် တနွ်ဝင်န်တို့ ရောက်ရှိနေခဲ့သော် ထိုနွန်စာကင်န်နှင့် တနွ်ဝင်န်တို့၏ နွန်အသံကို လျှို့ဝှက်၍ ထုတ်ဖော်ရွတ်ဆို ပေးရပါသည်။ တနည်းအားဖြင့်ဆိုသော် ( غنــه ) ဂွန္နာဟ်ညီး၍ လျှို့ဝှက်စွာ ထုတ်ဖော်ဖတ်ခြင်းပင်ဖြစ်သည်၊ ဤသို့ထုတ်ဖော်ဖတ်ခြင်းကို အစ်ခဖါဂွန္နာဟ်ဟုခေါ်ပါသည်၊

ဥပမာ– مِنْ سِجِّيْلٍ فَجَعَلَهُمْ مِنْ جُوْعٍ

(အစ်ဖါဂွန္နာဟ်) (အစ်ခဖါဂွန္နာဟ်)

## (ရှင်းလင်းချက် (၃) ( اقــلاب ) အစ်ကလားဗ်

နွန်အသံထွက်သော တနွ်ဝင်န်နှင့် နွန်စာကင်န်၏ အရှေ့တွင် ( ب ) "ဗါ"ရောက်ရှိလာပါက၊ ထို "ဗါ" ( ب ) အပေါ်တွင် "မီးမ်" ( م ) အသေးတင်၍ နွန်အသံထွက်ဖတ်ရသော နွန်အသံအစား "မီးမ်" ( م ) အသံ ပြောင်းဖတ်ရခြင်းကို အစ်ကလားဗ်ဟု ခေါ်ပါသည်။ ထိုသို့ဖတ်ခြင်းကို အစ်ကလားဗ်ဂွန္နာဟ် ဟုခေါ်သည်။

ဥပမာ– ذَنْۢبٍ خَبِيْرًاۢ بَصِيْرًا

အစ်ကလားဗဂွန္နာဟ်

## ရှင်းလင်းချက် (၄) ( ادغام ) အစ်ဒဂမ်

အစ်ဒဂမ်ဆိုသည်မှာ နွန်အသံထွက်သော တန်ဝင်န်နှင့် နွန်စာကင်န်တို့၏ အရှေ့တွင်
ن و ل م ر ی တို့ထဲမှ တစ်လုံးလုံးရောက်ရှိလာပါက၊
ထိုစာလုံးကို ( ّ ) သရှ်ဒီးဒ်ပေးပေါင်းဖတ်ခြင်းကို အစ်ဒဂမ်ဟု ခေါ်ပါသည်။
( ن و ل م ر ی ) တို့ကို အလွယ်နည်းဖြင့် ( يَرْمَلُوْنَ )
ဟု မှတ်သားနိုင်ပါသည်။

ဖေါ်ပြစကားလုံးများထဲမှ ر နှင့် ل ကိုဂွန္နာဟ် မလုပ်ရပါ။
ရိုးရိုးသာ ပေါင်းဖတ်သွားရ၏။ ထိုသို့ ဂွန္နာဟ် မပြုလုပ်ရပဲ ပေါင်းဖတ်ခြင်းကို အစ်ဒဂမ် မေဗေဂွန္နာဟ်ဟု ခေါ်ပြီး၊ ဂွန္နာဟ်ပြုလုပ်၍ ပေါင်းရခြင်းကို အစ်ဒဂမ်မေဘာဂွန္နာဟ်ဟု ခေါ်သည်။

ဥပမာ– بِحِجَارَةٍ مِّنْ مِنْ رَّبِّ

အစ်ဒဂမ်မေဗါဂွန္နာဟ် အစ်ဒဂမ်မေဗေဂွန္နာဟ်

## ( واجب غنه ) ဝါဂျိဗ်ဂွန္နာဟ်

ဝါဂျိဗဂွန္နာဟ်ဆိုသည်မှာ နွန်နှင့် မီးမ်အပေါ်မှာ မူရင်းသပ်ရှ်ဒီးဒ်ရောက်ရှိနေပါက၊ ယင်းမီးမ်နှင့် နွန်တို့ကို အခြားသောစာလုံးနှင့် ပေါင်းဖတ်သည့်အခါ ဂွန္နာဟ်ပြုရန် အရေးကြီးလေသည်။ ဆိုလိုသည်မှာ ညီးကို ညီးပေးရ၏။ ထိုသို့ ဂွန်နာ မပြုပဲ မနေရသော အဖြစ်ကို ဝါဂျိဗ်ဂွန္နာဟ်ဟု ခေါ်သည်။

ဥပမာ– اِنَّ ثُمَّ

ဝါဂျိဗ်ဂွန္နာဟ်

## ( مـد كا بيـان ) မဒ်၏ ဆွဲဖတ်ရသော အကြောင်း

## ( مَدّ طَبِعِيّ ) မဒ်ဒေတွဗအီ

မဒ်ဒေတွဗအီဆိုသည်မှာ ပင်ကိုဆွဲဖတ်ရသော စကားစုများကိုခေါ်ပါသည်။

ဥပမာ (၁)။ စာလုံးတစ်လုံးကို အလစ်ဖ်နှင့်တွဲ၍ ဆွဲဆိုရသောအသံ ( يَا تَا جَا )၊ ထိုအပြင် ( و ) ဝေါင်စာလုံးကို ဂျဇမ်ပေး၍ ၄င်း၏ရှေ့တွင်ရှိစာလုံးပေါ် ( ـُ ) ပေ့ရှ်ပေး၍ ပေါင်းဖတ်သောအခါထွက်လာသည့် အသံ၊ ( اُو بُو تُو ) ထိုအပြင် ( ى ) "ယာ" စာလုံးကို ဂျဇမ် ပေးပြီး၊ ၄င်းရှေ့တွင်ရှိသော စာလုံးကို "ဇေရ်" ပေး၍ ပေါင်းဖတ်သောအခါ ရရှိလာသော အသံ ( اِى بِى جِى حِى خِى دِى )

ဥပမာ (၂)။ نُوحِيهَا (အားလုံးမဒ်ဒေတွဗအီဖြစ်သည်။)

## ( مَدّ لِين ) မဒ်ဒေလင်းန်

မဒ်ဒေလင်းန်ဆိုသည်မှာ ( ى နှင့် و ) ကို ဂျဇမ်ပေးပြီး၊ ၄င်းအရှေ့တွင် ရှိသော စာလုံးများကို ( ـَ ) ဇဗတ်ရ်ပေး၍ ပေါင်းဖတ်သည့်အခါ ပျော့ပြောင်းစွာထွက် လာသည့်အသံကို မဒ်ဒေလင်းန်ဟု ခေါ်ပါသည်။

ဥပမာ- صَيْفٌ خَوْفٌ

မဒ်ဒေလင်းန်

## ( مَدّ مُنْفَصِل ) မဒ်ဒေမွန်ဖါစွိလ်

မဒ်ဒေမွန်ဖါစွိလ်ဆိုသည်မှာ စကားစုတစ်ခု၏ နောက်ဆုံးစာလုံး (မဒ်ဒေတွ ဗအီ (သို့) ( ـِ ا ـُ ) ခလားဇဗတ်ရ်၊ ခလားဇေရ်၊ အွတ်လ်တာပေ့ရှ်) တို့၏အရှေ့တွင် အခြားစကားစု၏ အစ၌ ( أُ إِ أَ ) "ဟမ်ဇာတွလ်ဝါစ်လ်" ဆိုလိုသည်မှာ "အလစ်ဖ်" ဖြင့်အစပြုရောက်ရှိနေလျှင် ထိုမဒ်ဒေတွဗအီ (သို့) ( ـِ ا ـُ ) ခလားဇဗတ်ရ်၊ ခလားဇေရ်၊ အွတ်လ်တာပေ့ရှ် အပေါ်သို့ မဒ်ဒေမွန်ဖာစွိလ် ( ـٓ ) ကို တပ်စဉ်၍ ( الف )၊ အလစ်ဖ် သုံးလုံးစာမျှဆွဲဆိုရွတ်ဖတ်ရပေမည်။

ဆိုလိုသည်မှာပို၍ဆွဲဆိုရပါမည်။

ဥပမာ– اَطْعَمَهُمْ    اَلَّذِىْ

ဟမ်ဇာတွယ်ဝါစ်လ်    မဒ်ဒေတွဗအိ

မဒ်ဒေမွန်ဖစ္စိလ်

## ( (٢) مَدِّ مُتَّصِل ) (မဒ်ဒေမွတ္တာစ္စိလ်)

မဒ်ဒေမွတ္တာစ္စိလ်ဆိုသည်မှာ မဒ်ဒေတွဗအိ၏ အရှေ့တွင် ( ء ) ဟမ်ဇာဟ်ရောက်ရှိနေလျှင် ထိုမဒ် ဒေတွဗအိပေါ်သို့ မဒ်ဒေမွတ္တာစ္စိလ် ( ٓ ) တပ်ပေး၍ ( الف ) အလစ်ဖ် (၅) လုံးစာမျှ ဆွဲဆို ရွတ်ဖတ်ပေးရပါသည်။ ဆိုလိုသည်မှာ စုံ၍ ဆွဲဆိုရွတ်ဖတ်ပေးရ၏။

ဥပမာ– مَآءٌ اَلسَّمَآءُ هَنِيْٓـًٔا سُوْٓءٌ

(မဒ်ဒေမွတ္တာစ္စိလ်)

## ( مدّ لازم كى تعريف ) မဒ်ဒေလာဇင်မ်အကြောင်း

မဒ်ဒေလာဇင်မ်ဆိုသည်မှာ ဆွဲဖတ်ရသော စာလုံးတစ်လုံး၏ အရှေ့တွင် စာကင်န် (သို့) သပ်ရှ်ဒီးဒ်ရောက်ရှိနေပါက၊ ၎င်းစာကင်န် (သို့) သပ်ရှ်ဒီးဒ်ရောက်ရှိနေသော စာလုံးနှင့် ဆွဲ၍ ပေါင်းဖတ်ပေးရပါသည်။

မဒ်ဒေလာဇင်မ် (၄) မျိုးရှိပါသည်။ ၎င်းတို့မှာ–

(၁) مد لازم كلمى مخفف (မဒ်ဒေလာဇင်မ်ကလ်မိမိုခဖမ်)
(၂) مد لازم كلمى متصل (မဒ်ဒေလာဇင်မ်ကလ်မိမိုစကလ်)
(၃) مد لازم حرفى مخفف (မဒ်ဒေလာဇင်မ်ဟရ်ဖိမိုခဖဖ်)
(၄) مد لازم حرفى متصل (မဒ်ဒေလာဇင်မ်ဟရ်ဖိမိုစကလ်)

စသည်တို့ဖြစ်ပါသည်။

## ၁။ မဒ်ဒေလာဇင်မ်ကလ်မိမိုခဖဖ်

မဒ်ဒေလာဇင်မ်ကလ်မိမိုခဖဖ် ဆိုသည်မှာ စကားစုတစ်စုထဲမှ စာလုံးတစ်လုံးသည် ဆွဲဖတ်ရသော ( حرف مد ) (ဟတ်ရ်ဖ်မဒ်ဝင်ရောက်သောစာလုံး) အရှေ့တွင် ( ْ ) (စာကင်န်) ရောက်ရှိနေလျှင် ထိုစာလုံးကိုဆွဲ၍ ပေါင်းဖတ်ပေးရ၏။

ဥပမာ–    آلٓـٓـنَ

(ဤနည်းတူ စကားစုများ)

## ၂။ မဒ်ဒေလာဇင်မ်ကလ်မီမိုစကလ်

မဒ်ဒေလာဇင်မ်ကလ်မီမိုစကလ်ဆိုသည်မှာ စကားစုတစ်ခုထဲ၌ ဆွဲ၍ ဖတ်ရသော စာလုံး၏ အရှေ့တွင် ( ـّـ ) သပ်ရှ်ဒီးဒ်ရောက်ရှိနေလျှင် ထိုစာလုံးကို ဆွဲဆို၍ ပေါင်းဖတ်ပေးရ၏။

ဥပမာ–    وَلَا الضَّآلِّيْنَ    (အလားတူ စကားစုများ)

## ၃။ မဒ်ဒေလာဇင်မ်ဟာရ်ဖီမိုခဖဖ်

မဒ်ဒေလာဇင်မ်ဟာရ်ဖိမိုခဖဖ်ဆိုသည်မှာ– ( حروف مقطعات ) "ဟူရူဖေမိုကတ္တေအာသ်"ဆွဲဖတ်ရသော အက္ခရာစာလုံးတစ်လုံး၏နောက်တွင်ဂျဇမ် ( ـٓ ) အသံဖတ်ရသော အက္ခရာစာလုံးကိုခေါ်ပါသည်။

ဥပမာ–

قٓ    حٰمٓ

قَافْ    حَامِيْمْ

## ၄။ မဒ်ဒေလာဇင်မ်ဟာရ်ဖီမိုစကလ်

မဒ်ဒေလာဇင်မ်ဟာရ်ဖိမိုစကလ်ဆိုသည်မှာ– "ဟူရူဖေမိုကတ္တေအာသ်"၏ ဆွဲဆိုဖတ်ရသော အက္ခရာစာလုံးတစ်လုံး၏ အနောက်တွင် ( ـّـ تَشْدِيْد ) သပ်ရှိဒီးဒ် ရောက်ရှိနေရမည်။ထိုသို့ဆွဲဆိုဖတ်ရသောအက္ခရာစာလုံးကို "မဒ်ဒေလာဇင်မ်ဟာရ်ဖိမိုစကလ်" ဟုခေါ်သည်။

ဥပမာ–

طٰسٓمٓ    الٓمٓ

طَاسِيْنْ مِيْمْ    اَلِفْ لَامْ مِيْمْ